U Thein

1

# ဦးဖေမောင်တင်

ရေးသားပြုစုသော

# အခြေပြု ပါဠိသဒ္ဒါ ။

# A PALI PRIMER

( in Burmese )

BY

PE MAUNG TIN



RANGOON:
BRITISH BURMA PRESS

1926

Price Rs. 1-8. ကျပ် ၁-၈

အခြေပြု ပါဠိသဒ္ဒါ။

## အခဏ်း ၁။

### (က) သရများ။

ပါဠိဘာသာ၌ သရရှစ်လုံးရှိသည်။ ၎င်းတို့ကားဤသို့တည်း။

| **ဗျည်းနှင့်မယှဉ်သောသရပုံ။** | **ဗျည်းနှင့်ယှဉ်သော သရပုံ။** | **အသံတိုရသာ။ အသံရှည်ဒီဃ။** | **သရများကို ဗျည်းနှင့်တွဲပုံ။** |
|---|---|---|---|
| အ | – | အသံတို | က |
| အာ | – ာ၊ –ါ | အသံရှည် | ကာ |
| ဣ | ိ | အသံတို | ကိ |
| ဤ | ီ | အသံရှည် | ကီ |
| ဥ | –ု | အသံတို | ကု |
| ဦ | –ူ | အသံရှည် | ကူ |
| ဧ | ေ– | အသံရှည် | ကေ |
| ဩ | ေ–ာ | အသံရှည် | ကော |

# (ခ) ဗျည်းများ။

ဗျည်းသုံးဆယ့်သုံးလုံးရှိ၏။ ၎င်းတို့ကားဤသို့တည်း။

| ဖြစ်ရာဌာန။ | ဝဂ်အက္ခရာများ။ | | | | | အဝဂ် အက္ခရာများ။ | |
|---|---|---|---|---|---|---|---|
| | အဃောသ။ | | ဃောသ။ | | | | |
| | အသံဖျော့။ | အသံပြင်း။ | အသံဖျော့။ | အသံပြင်း။ | နှာသံ။ | | |
| ကဝဂ်အက္ခရာတို့သည် လည်ချောင်း၌ဖြစ်ကုန်၏။ | က | ခ | ဂ | ဃ | င | ဟ | |
| စဝဂ် အက္ခရာတို့သည် အာခေါင်ဦး၌ဖြစ်ကုန်၏။ | စ | ဆ | ဇ | ဈ | ဉ | ယ | |
| ဋဝဂ် အက္ခရာတို့သည် လျှာထိပ်အာခေါင်ဦးသို့ကပ်၍ ဖြစ်ကုန်၏။ | ဋ | ဌ | ဍ | ဎ | ဏ | ရ | ဠ |
| တဝဂ် အက္ခရာ တို့သည် အထက် သွားများနောက်သို့ လျှာဖျားကပ်၍ ဖြစ်ကုန်၏။ | တ | ထ | ဒ | ဓ | န | လ | သ |
| ပဝဂ် အက္ခရာတို့သည် နှုတ်ခမ်း၌ဖြစ်ကုန်၏။ | ပ | ဖ | ဗ | ဘ | မ | | |

ဝ နှင့် အံ တို့သည် ဗျည်းလည်း ဖြစ်ကြ၍ အ ဝဂ်လည်းဖြစ်ကြ၏။ ဝ မှာ သွားနှင့် နှုတ်ခမ်းဌာန နှစ်မျိုးစပ်ဖြစ်၍ ဃောသ လည်းဖြစ်၏။ အံ ကိုနိဂ္ဂဟိတ် ဟူ၍လည်းခေါ်၏။ ထိုနိဂ္ဂဟိတ်သည် နာသိကဌ် ဖြစ်၏။

သရ ရှစ်လုံးတို့တွင်လည်း အ နှင့် အာ သည်လည်ချောင်း၌ဖြစ်၏။ဣနှင့်ဤသည် အာခေါင်၌ဖြစ်၏။ဥ နှင့် ဦသည် နှုတ်ခမ်း၌ဖြစ်၏။ ဧ သည် လည်ချောင်း အာခေါင်ဌာန နှစ်မျိုး။ ဩသည် လည်ချောင်းနှုတ်ခမ်းဌာန နှစ်မျိုးစပ်ဖြစ်၏။

ပြခဲ့ပြီးသော သရရှစ်လုံးနှင့်ဗျည်း သုံးဆယ့်သုံးလုံးတို့ကို ပေါင်း၍ လေးဆယ့်တလုံးကို ဝဏ္ဏဟူ၍လည်းကောင်း၊ အက္ခရာဟူ၍လည်းကောင်း ခေါ်၏။

ဗျည်း၃၃လုံးတို့သည် မိမိတို့အလျောက် အသံမဖြစ်နိုင်။ သရယှဉ်တွဲမှသာလျှင် အသံဖြစ်နိုင်၏။ ထို့ကြောင့် ၎င်းတို့ကို ခေါ်သောအခါ အ–သံတွဲ၍ အသံပေးရာ၏။ အခြားသရနှင့်တွဲလျှင်မူကား၊၎င်းသရသံထွက်၏။ ပြယုဂ်။ ။ကိ၊ကု၊ကေ အစရှိသဖြင့်ဖြစ်၏။

---

# နာမ်ရုပ်ထား။ ပဒမာလာ။*

## အ–သရဆုံးသောပုဒ်များ။

နာမ်ဝိဘတ်တို့ကို အ–သရဆုံးသောပုဒ်၌ အောက်ပါ အတိုင်း ဆက်သွယ်ရာ၏။

### တည်ပုဒ်။ပုရိသ, လူ–ပုလ္လိင်။

| ကာရက။ | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| ကတ္တာ – | ပုရိသော,လူသည်၊လူကား။ | ပုရိသာ,လူတို့သည်၊လူတို့ကား။ |
| သာမီ – | ပုရိသဿ,လူ၏။ | ပုရိသာနံ,လူတို့၏၊လူတို့အား။ |
| သမ္ပဒါန – | ပုရိသဿ,လူအား၊ဘို့။ | |
| ကမ္မ – | ပုရိသံ,လူကို။ | ပုရိသေ,လူတို့ကို။ |
| ကရဏ – | ပုရိသေန,လူဖြင့်။ | ပုရိသေဟိ၊ပုရိသေဘိ,လူတို့ဖြင့်။ လူတို့မှ၊တို့က။ |
| အပါဒါန – | ပုရိသာ၊ပုရိသသ္မာ၊ပုရိသမှာ၊ ပုရိသတော, လူမှ၊က။ | |
| ဩကာသ – | ပုရိသေ၊ပုရိသသ္မိံ၊ပုရိသမှိ, လူ၌၊ မှာ။ | ပုရိသေသု,လူတို့၌၊တို့မှာ။ |
| အာလပန – | ပုရိသ,အိုလူ၊အချင်းလူ။ | ပုရိသာ,အိုလူတို့၊အချင်းလူတို့။ |

အောက်ပါ ပုလ္လိင်ပုဒ်တို့ကို ပုရိသ–အတိုင်းဝိဘတ်သွယ်၍ ပဒမာလာစဉ်ပါ။

အမစ္စ, အမတ်။မိဂ, သမင်။ လုဒ္ဒ, မုဆိုး။ သဒ္ဒ, အသံ။ သီဟ, ခြင်္သေ့။ သူရိယ, နေ။

အမှာ။ ။ရှုပသိဒ္ဓိစသော ပါဠိသဒ္ဒါကျမ်းကြီးတို့၌ကား။ ပဥ္စမာစသောဝိဘတ်အစဉ်အတိုင်း။ကတ္တာ၊ အာလပန၊ ကမ္မ၊ ကရဏ၊သမ္ပဒါန၊အပါဒါန၊သာမီ၊ဩကာသ အားဖြင့် ပဒမာလာ စီစဉ်သည်။သို့သော်လည်းလူတို့ဘာသာ ပါဠိသဒ္ဒါကျမ်းများမှာကား။ ပြခဲ့ပြီးသောအတိုင်း ပဒမာလာစီစဉ်သည်။ သို့

* ပဒမာလာ=ပုဒ်တို့ကို ပန်းကုံးကဲ့သို့စီစဉ်သည်။

ဖြစ်၍ သိုးဆောင်းလူတို့ဘာသာပါဠိသဒ္ဒါကို သင်ကြားသော သူတို့နှင့် နည်းလမ်း တညီတညွတ်တည်း ဖြစ်စိမ့်သောငှာ။ ဤ စာအုပ်တွင် သိုးဆောင်းလူတို့ဘာသာ ပါဠိသဒ္ဒါ ကျမ်းသို့ လိုက်၍ ပဒမာလာစီစဉ်ထားပါသည်။

## အခဏ်း ၂။

ဓာတ်၌ ကြိယာဝိဘတ် ဆက်သွယ်နည်း ၈ မျိုးရှိသည့် အ တိုင်း။ ကြိယာတို့ကို ဂိုဏ်းအားဖြင့် ၈ မျိုးပိုင်းခြားလျက်ရှိ၏။

## ပဌမကြိယာဂိုဏ်း(က)။*

ပဌမကြိယာဂိုဏ်း၏ လက္ခဏာကား အ–ပစ္စည်း ဖြစ်၏။ ၎င်းကိုဓာတ်၌ ၄ နည်းအားဖြင့် ဆက်သွယ်၏။ ပဌမနည်း အတိုင်း အ–ကို ဗျည်းဆုံးသော ဓာတ်၌ ဆက်သွယ်ရာ၊ ဓာတ် သည် တည်ပုဒ်ဖြစ်လာ၏။ ပြယုဂ်၊ √ ပစ်+အ=ပစ

တည်ပုဒ်၌ ဝိဘတ်တို့ကို ဆက်သွယ်လျှင်၊ ကြိယာပုဒ်ရ၏။ ပြယုဂ်၊ ပစ္စုပ္ပန်ကာလ (ပရဿပဒ။)

| ယောဂ။ | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| အမှယောဂ – | အဟံ ပစာမိ,ကျွန်ုပ်ချက်ပြုတ်၏။ | မယံ ပစာမ,ကျွန်ုပ်တို့ ချက်ပြုတ်ကြ၏။ |
| တုမှယောဂ – | တွံ ပစသိ, သင်ချက်ပြုတ်ကြ၏။ | တုမှေ ပစထ, သင်တို့ ချက်ပြုတ်ကြ၏။ |
| နာမယောဂ – | သော၊သာ၊တံ ပစတိ,သူချက်ပြုတ်၏။ | တေ၊တာ၊တာနိ ပစန္တိ, သူတို့ ချက်ပြုတ်ကြ၏။ |

မှတ်ချက်။ ။မိ၊ မ–ဝိဘတ်တို့ရှေ့၌ သရသည် ရှည်၏။

* ၎င်းကို ပါဠိသဒ္ဒါကျမ်းကြီးတို့၌ ဘူဝါဒိဂိုဏ်း–ဟု ခေါ်သည်။

လေ့ကျင့်ဘွယ်။ ။အောက်ပါဓာတ်တို့၌ √ ပစ်–ဓာတ်အတိုင်း ပစ္စုပ္ပန်ဝိဘတ်ဆက်သွယ်ပါ။

√ပုစ္ဆ,မေးခြင်း။ √ မရ်,သေခြင်း။ √ ယာစ်, တောင်းခြင်း။ √ရက္ခ်,စောင့်ရှောက်ခြင်း √လဘ်,ရခြင်း။ √ဝဓ်, သတ်ခြင်း။

မြန်မာဘာသာပြန်ပါ။ (၁) သီဟာ မရန္တိ။ (၂) လုဒ္ဒါ မိဂေ ဝဓန္တိ။ (၃) တွံ အမစ္စေ ပုစ္ဆသိ။

ပါဠိဘာသာပြန်ပါ။ (၁) ခြင်္သေ့သည် သမင်ကို သတ်၏။ (၂) လူတို့သည် အမတ်တို့ကို မေးကြ၏။ (၃) ကျွန်ုပ်တို့သည် ခြင်္သေ့ကိုရကြ၏။

အမှာ။ ။ပါဠိသဒ္ဒါကျမ်းကြီးတို့၌ကား နာမယောဂ၊ တုမှယောဂ၊ အမှယောဂ အားဖြင့် ဝိဘတ်တို့ကို တိ၊ အန္တိ၊ သိ၊ ထ၊ မိ၊ မ–ဟူ၍စီစဉ်သည်။

## အခဏ်း ၃။

## ပဌမကြိယာဂိုဏ်း (ခ)။

ဤကြိယာစုတို့၏ဓာတ်သည် အများအားဖြင့် အာ–သရဆုံး၍။ဝိဘတ်တို့ကို တိုက်ရိုက်ဆက်သွယ်ရ၏။ ပြယုဂ်၊ √ယာ, သွားခြင်း–ယာမိ, ကျွန်ုပ်သွား၏။

လေ့ကျင့်ဘွယ်။ ။√ယာ–ကဲ့သို့ ဝိဘတ်သွယ်ပါ။ √ဗြူ, ပြောဆိုခြင်း။ √ဝါ,ရွေ့ရှားသွားလာခြင်း။

# အာ–သရဆုံး ဣတ္ထိလိင်နာမ်များ။ ဝိဘတ်သွယ်ပုံ။ တည်ပုဒ်။ကညာ, မိန်းကလေး။

| ကာရက | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| ကတ္တာ – | ကညာ,မိန်းကလေးသည်၊ ကား။ | ကညာ၊ကညာယော,မိန်းက လေးတို့သည်၊ကား။ |
| သာမီ သမ္ပဒါန –| ကညာယ,မိန်းကလေး၏၊ အား၊ဘို့။ | ကညာနံ,မိန်းကလေးတို့၏၊ တို့အား၊တို့ဘို့။ |
| ကမ္မ – | ကညံ,မိန်းကလေးကို။ | ကညာ၊ကညာယော,မိန်းက လေးတို့ကို။ |
| ကရဏ အပါဒါန –| ကညာယ,မိန်းကလေးဖြင့်၊ မှ။ | ကညာဟိ,မိန်းကလေးတို့ဖြင့်၊ တို့မှ။ |
| ဩကာသ – | ကညာယ၊ကညာယံ မိန်းက လေး၌၊မှာ။ | ကညာသု,မိန်းကလေးတို့၌၊ တို့မှာ။ |
| အာလပန – | ကညေ,အိုမိန်းကလေး။ | ကညာ၊ကညာယော,အိုမိန်းက လေးတို့။ |

အဘိဓာန်။ ။ကညာ–ကဲ့သို့ ဝိဘတ်သွယ်ရသော ဣတ္ထိလိင်နာမ်များ။–ဆာယာ,အရိပ်။ ဇာလာ,မီးလျှံ။နာဝါ,လှေ။ ဗာဟာ,လက်မောင်း။ဝါစာ,စကား။ ဝေဒနာ,ကျင်နာခြင်း။

ဣတ္ထိလိင်ပစ္စည်းများ။ ။–ာ သည်များစွာသော ဣတ္ထိလိင်နာမ်တို့၏ ပစ္စည်းဖြစ်သည်။ ီသက်သက်နှင့် ီဆုံးသောနီ, ိနီ, –ာနီ တို့လည်းဣတ္ထိလိင်နာမ်ပစ္စည်းများဖြစ်ကြ၏။ပြယုဂ်၊ နဒီ,မြစ်။ဘိက္ခုနီ,ရဟန်းမိန်းမ။မိဂီနီ,သမင်မ။မာတုလာနီ,အရီး။ သီဟီ,ခြင်္သေ့မ။

ဘာသာပြန်။ ။(၁) အဟံ နာဝါယ ယာမိ။(၂) သီဟီ ဝေဒနာယ မရတိ။ (၃) လုဒ္ဒါ သူရိယဿ ဆာယံ လဘန္တိ။ (၄) တုမှေ ဝါစံ ဖြုဏထ။

(၁) မိန်းကလေးသည် မုဆိုး၏ လက်မောင်း၌ သေ ၏။ (၂) သူတို့သည် လေ့၏ အရိပ်၌ ချက်ပြုတ်ကြ၏။ (၃) မုဆိုးသည် မီးလျှံဖြင့် သေ၏။ (၄) သူသည် (ဣ) စကားကို ဆို၏။

## အခဏ်း ၄။

## ပဌမကြိယာဂိုဏ်း (ဂ)။

ိ၊ီ၊ု၊ူ သို့မဟုတ် ူ ဆုံးသော ဓာတ်၌ အ-ပစ္စည်း သွယ်ရာ၊ ေ-၊ အယ၊ ော သို့မဟုတ် အဝ ကို ရ၏။ (ိ၊ ီ+အ=ေ-၊ အယ။ ု၊ူ+အ=ော၊ အဝ)

ပြယုဂ်။ ။ √ကု,အသံပြုခြင်း+အ=ကဝ+တိ=ကဝတိ။
√ဇိ,အောင်မြင်ခြင်း+အ=ဇေ၊ ဇယ+တိ= ဇေတိ၊ဇယတိ။
√နီ, ဆောင်ယူခြင်း+အ=နေ၊ နယ+တိ= နေတိ၊နယတိ။
√ဘူ,ဖြစ်ခြင်း+အ=ဘဝ+တိ=ဘဝတိ။
√ဟူ,ဖြစ်ခြင်း+အ=ဟော+တိ=ဟောတိ။

### အ-သရဆုံး နပုန်းလိင်နာမ်များ ဝိဘတ်သွယ်ပုံ။

ဤသည်ကား အ-သရဆုံး ပုလ္လိင်နာမ်များ ဝိဘတ်သွယ် ပုံနှင့်တူ၏။ အထူးကား နပုန်းလိင် နာမ်များသည် ကတ္တာ ကာရက၊ ဧကဝုစ်၌ နိဂ္ဂဟိတ် ံ နှင့် ဆုံး၍ ကတ္တာနှင့် အာလ ပန၊ ဗဟုဝုစ်၌ အာနိနှင့်ဆုံးသည်။ ပြယုဂ်၊ ဃရံ,အိမ်။ ဃရာနိ, အိမ်များ၊ အိုးအိမ်များ။ ကမ္မ ဗဟုဝုစ်၌ကား အာနိ၊ ဧ နှင့် ဆုံးသည်။ ပြယုဂ်၊ ဃရာနိ၊ ဃရေ, အိမ်တို့ကို။

အဘိဓာန်။ ။ဃရ–ကဲ့သို့ ဝိဘတ် သွယ်ရသော နပုန်းလိင်နာမ်များ။ ဩသဓ, ဆေး။ စိတ္တ, စိတ်။ စေတိယ, စေတီ။ ဇီဝိတ, အသက်။ နာမ, အမည်။ ဖလ, အကျိုး၊သစ်သီး။ မူလ, သစ်မြစ်၊အဘိုးငွေ။ ရဋ္ဌ,တိုင်းပြည်။ရူပ,ရုပ်။ဟဒယ,နှလုံး။

ဘာသာပြန်။ ။(၁) မယံ နာမံ လဘာမ။ (၂) မိဂါနိ ဇီဝိတံ လဘတိ။ (၃) မာတုလာနိ စေတိယဿ ဆာယာယံ မရတိ။ (၄) လုဒ္ဒေါ ကညံ နာဝါယ နေတိ။

(၁) မိန်းကလေးသည် အဘိုးငွေကို ရ၏။ (၂) သင်တို့သည်တိုင်းပြည်၌ အမတ်ကို မေးကြ၏။ (၃) ကျွန်ုပ်တို့သည် မိန်းကလေး၏ တိုင်းပြည်ကို အမတ်တို့မှ စောင့်ရှောက်ကြ၏။ (၄) မုဆိုးသည် တိုင်းပြည်ကို အောင်၏။

## အခန်း ၅။

## သန္ဓိ။

သန္ဓိဟူသည်ကား (က) ရှေ့ပုဒ်အဆုံးနှင့် နောက်ပုဒ်အစဖြစ်သော သရနှစ်လုံးကို ဖြစ်စေ၊ (ခ)သရတလုံးတည်းနှင့်ဗျည်းတလုံးကိုဖြစ်စေ၊ (ဂ)ံနိဂ္ဂဟိတ်တလုံးနှင့် နောက်သရဖြစ်စေ။ နောက်ဗျည်းဖြစ်စေ။ စပ်ရှက်ရောနှောခြင်းကို သန္ဓိဟူ၍ ခေါ်သည်။

(က) ကိုသရသန္ဓိဟူ၍ ခေါ်သည်။ (ခ) ကိုဗျည်းသန္ဓိသော်၎င်း။ မိဿကသန္ဓိသော်၎င်း။ ခေါ်သည်။ (ဂ) ကို နိဂ္ဂဟိတ်သန္ဓိဟူ၍ခေါ်သည်။ ဥဒါဟရဏ်များကား။ –

(က) ယဿ+ဣဒါနိ=ယဿိဒါနိ(အ–ကြေသည်။)

(ခ) ဝိ+ပယုတ္တာ=ဝိပ္ပယုတ္တာ (ပ–ဒွေးဘော်ဖြစ်သည်။)

(ဂ) လဘေယျံ+အဟံ=လဘေယျာဟံ(–ကြေသည်။)

သင်ခန်းစာများ၌ပါလတ္တံ့သောဝါကျများကို ထောက်၍ သန္ဓိအကြောင်းအရာကို သိနိုင်၏။ အထူးမှတ်ရန် အချက်များ မှာ၊

(က) အ၊ အာ + ဣ၊ ဤ = ဧ။ ပြယုဂ်–အဝ+ဣစ္စ=အ ဝေစ္စ။

(ခ) အ၊ အ ၁ + ဥ၊ ဦ=ဩ။ ပြယုဂ်–န + ဥပေတိ = နော ပေတိ။

ပြောင်းပြန်အားဖြင့်၊

(ဂ) ဣ၊ ဤ + အ၊ အာ=ဧ။ ပြယုဂ်– နိ+အတိ=နေတိ။

(ဃ) ဥ၊ ဦ+အ၊ အာ=ဩ။ ပြယုဂ်–ဟူ +အတိ=ဟောတိ။

အမျိုးတူသရနှစ်လုံးပေါင်းစပ်ကြရာ၊ ဒီဃသရဖြစ်၏။

(င) အ၊ အာ+အ၊အာ=အာ။ ပြယုဂ် – န + အဟောသိ =နာဟောသိ။

(စ) ဣ၊ ဤ+ဣ၊ ဤ=ဤ။ ပြယုဂ်–ဒေမိ+ဣတိ=ဒေမီတိ။

(ဆ)ဥ၊ဦ+ဥ၊ ဦ=ဦ။ပြယုဂ်–မဓု+ဥဒကံ=မဓူဒကံ။

အမျိုးခြားသရနှစ်လုံးပေါင်းစပ်ကြရာ၊ တလုံးကြေ၏။ ပြယုဂ်–

(ဇ) အထ+ဧကော=အထေကော(အဆုံး အ–ကြေ၏။)

(ဈ) ကော+အသိ=ကောသိ(အစ အ–ကြေ၏။)

ဤသို့သော ဥဒါဟရဏ်များ၌အများအားဖြင့် အ၊ အာ တို့ သည် ဣ၊ဤ။ဥ၊ဦတို့နှင့်တွေ့သော် ကြေကြကုန်၏။ ဣ၊ဤတို့ သည် ဥ၊ဦတို့နှင့်တွေ့သော် ကြေကြကုန်၏။

သို့ဖြစ်သော်ငြားလည်း၊ အခြားဖြစ်ပျက်ပုံ များကိုလည်း တခါတရံတွေ့တတ်၏။

## ပုဂ္ဂလနာမ်စားများ။*

### အဟံ,ကျွန်ုပ်(အမှယောဂ။)

| | ဧကဝုစ် | ဗဟုဝုစ် |
|---|---|---|
| ကတ္တာ | –အဟံ။ | မယံ၊အမှေ့။ |
| သာမီ၊သမ္ပဒါန | –မမ၊မယှံ၊အမှံ၊မမံ။ | အမှံ၊အမှာကံ၊အသ္မာကံ။ |
| ကမ္မ | –မံ၊မမံ။ | အမှေ၊အမှာကံ။ |
| ကရဏ၊အပါဒါန | –မယာ။ | အမှေဟိ။ |
| ဩကာသ | –မယိ။ | အမှေသု။ |

မှတ်ချက်။ ။နော–ကို ကတ္တာမှတပါး အခြား ဗဟုဝုစ် ကာရကတို့၌ သုံးနိုင်သည်။ ပြယုဂ်။ ။နယျာမကော နော ဟောဟိ, ကျွန်ုပ်တို့၏အမှူးပြုပါလော့။ (နော=အမှာကံ။)

### တွံ, သင်(တုမှယောဂ။)

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| ကတ္တာ | –တွံ၊တုဝံ။ | တုမှေ။ |
| သာမီ၊သမ္ပဒါန | –တဝ၊တုယှံ၊တုမှံ။ | တုမှံ၊တုမှာကံ။ |
| ကမ္မ | –တံ၊တဝံ၊တုဝံ၊တွံ။ | တုမှေ၊တုမှာကံ။ |
| ကရဏ၊အပါဒါန | –တယာ၊တွယာ။ | တုမှေဟိ။ |
| ဩကာသ | –တယိ၊တွယိ။ | တုမှေသု။ |

မှတ်ချက်။ ။သာမီ၊ သမ္ပဒါနဧကဝုစ်အရာ၌၊ မေ,ငါ၏။ ငါအားဟူ၍ငှင်း။တေ,သင်၏၊သင်အားဟူ၍ငှင်း။ သာမီ၊သမ္ပဒါန၊ ကမ္မဗဟုဝုစ်အရာ၌၊ နော, ငါတို့၏၊ငါတို့အား၊ ငါတို့ကို ဟူ၍ငှင်း။ ဝေါ,သင်တို့၏၊ သင်တို့အား၊သင်တို့ကိုဟူ၍ငှင်း သုံးနိုင်၏။ သို့ရာတွင် ငှင်း မေ၊ တေ၊ နော၊ ဝေါ တို့ကို ဝါကျ၏

* ပါဠိသဒ္ဒါကျမ်းကြီးတို့၌ကား တုမှ၊အမှ သဒ္ဒါတို့ကို ဝစနသဗ္ဗနာမ်ပုဒ်ဟုခေါ်၏။

အစဥ်ထား၍ မသုံးရ။ ရှေ့ကပုဒ်တခုခုနှင့်စပြီး နောက်မှသာလျှင်၊ ၎င်းတို့ကိုသုံးရသည်။ပြယုဂ်။ ။အယံ မေ ပုတ္တော, ဤသူသည်ငါ၏သားတည်း။ဣဒံတေရဋ္ဌံ,ဤတိုင်းပြည်သည်သင်၏တိုင်းပြည်တည်း။ဧသော နော သတ္ထာ,ဤသူသည် ငါတို့၏ဆရာတည်း။ ပဟာယ ဝေါ ဂမိဿာမိ,သင်တို့ကိုပယ်စွန့်၍ငါ သွားတော့အံ့။ ဤသို့အစရှိသည်ဖြင့်သာသုံးရမည်။

## သော,ထိုသူ(နာမယောဂ။ပုလ္လိင်။)

| | **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| ကတ္တာ | –သော။ | တေ၊(နေ။) |
| သာမီ၊သမ္ပဒါန | –တဿ၊(နဿ၊အဿ။) | တေသံ၊(နေသံ။) |
| ကမ္မ | –တံ၊(နံ။) | တေ၊(နေ။) |
| ကရဏ | –တေန၊(နေန။) | } တေဟိ၊(နေဟိ။) |
| အပါဒါန | –တသ္မာ၊(နသ္မာ၊အသ္မာ၊) တမှာ၊(နမှာ။) | |
| ဩကာသ | –တသ္မိံ၊ (နသ္မိံ၊အသ္မိံ၊) တမှိ၊ (နမှိ။) | } တေသု၊ (နေသု။) |

## သာ,သူ(နာမယောဂ။ဣတ္ထိလိင်။)

| | **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| ကတ္တာ | –သာ။ | တာ၊(နာ၊)တာယော၊(နာယော။) |
| သာမီ၊သမ္ပဒါန | –တိဿာယ၊တဿာယ၊ တိဿာ၊တဿာ၊ (အဿာယ၊နဿာယ၊ အဿာ၊နဿာ။) တာယ၊(နာယ။) | } တာသံ၊(နာသံ။) |
| ကမ္မ | –တံ၊ (နံ။) | တာ၊(နာ၊)တာယော၊(နာယော။) |
| ကရဏ၊အပါဒါန | –တာယ၊(နာယ။) | တာဟိ၊(နာဟိ။) |
| ဩကာသ | –တာယ၊ တာယံ။ တိဿံ၊တဿံ။ | } တာသု။ |

## တံ,သင်း၊ထိုဟာ(နာမယောဂ။နပုန်းလိင်။)

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| ကတ္တာ | –တံ၊(နံ။) | တာနိ၊(နာနိ။) |
| သာမီ၊သမ္ပဒါန | –တဿ၊(အဿ၊နဿ။) | တေသံ၊(နေသံ။) |
| ကမ္မ | –တံ၊(နံ။) | တာနိ။(နာနိ။) |
| ကရဏ | –တေန၊(နေန။) | တေဟိ၊(နေဟိ။) |
| အပါဒါန | –တသ္မာ၊တမှာ။(အသ္မာ၊ နသ္မာ၊နမှာ။) | တေဟိ၊(နေဟိ။) |
| ဩကာသ | –တသ္မိံ၊တမှိ၊(အသ္မိံ၊ နသ္မိံ၊ နမှိ။) | တေသု။ |

မှတ်ချက်။ ။(   )ဤကွဲသို့ကွင်းတွင်းရှိသောရုပ်များကို များစွာအသုံးမပြုကြ။

အဘိဓာန်။ ။ဩဝဒတိ,ဆုံးမ၏။ခဏတိ,တူးဆွ၏။ ဂစ္ဆတိ,သွား၏။ဓာဝတိ,ဆေးလျှော်၏။ နိပဇ္ဇတိ,လျောင်း၏။ နိသီဒတိ,ထိုင်၏။

မှတ်ချက်။ ။(၁)သွားလာခြင်း၊ရွေ့ရှားခြင်း အနက်ရှိသောကြိယာများသည် ကမ္မကာရကကို အသုံးပြုကြ၏။ပြယုဂ်၊ သော ရဋ္ဌံ ဂစ္ဆတိ, သူသည်တိုင်းပြည်သို့သွား၏။

(၂) မေးခြင်း၊ ပြောခြင်း အနက်ရှိသော ကြိယာများ သည်၊၂ခုသောကမ္မကာရကကိုအသုံးပြုကြ၏။ ပြယုဂ်၊ သော ဓမ္မံ မံ ပုစ္ဆတိ, သူသည် ကျွန်ုပ်ကို တရားအကြောင်းကိုမေး၏။

ဘာသာပြန်။ ။(၁) မမ သီဟော တဿာ မိဂံ ဝဓတိ။ (၂) သာ တေသံ ဗာဟာယော ဓာဝတိ။ (၃) မယံ တဿ သကဋ္ဋဿ (ပ၊ န–လှည်း) ဆာယာယံ နိပဇ္ဇာမ။ (၄) သာ တေသံ ကညံ ပဉှံ(ပ–အမေးပြဿနာ) ပုစ္ဆတိ။ (၅) အမစ္စာ ဘတ္တံ (န–ဆွမ်းထမင်း) ပစန္တိ။

(၁) မိန်းကလေးသည် အမတ်၏ လက်မောင်းပေါ်၌ ထိုင်၏။(၂) သူတို့သည် သစ်မြစ်အလို့ငှာ တူးကြ၏။ (၃)သား

သည် စေတီ၏ အရိပ်၌ မိန်းကလေးကိုဆုံးမ၏။ (၄) ကျွန်ုပ်တို့သည်အမတ်တို့၏တိုင်းပြည်သို့ လှည်းဖြင့်သွားကြ၏။ (၅)သူတို့သည်လှေ၌လျှောင်းကြ၏။

## အခန်း ၆။
## ပဉ္စမကြိယာဂိုဏ်း (ဃ)။

ဓာတ်၏ အစဖြစ်သော ဗျည်းကိုနောက်လိုက်သရနှင့်အတူ တကွဒွေးဘော်(၂ကြိမ်အသုံး)ပြုခြင်းသည် အဗ္ဘာသမည်၏။ ပြယုဂ်၊ √ ဒါ, ပေးခြင်းသည် အဗ္ဘာသအားဖြင့် ဒဒါ–ဖြစ်လာ၏။

ဤကြိယာဂိုဏ်း၌ ဓာတ်သည် အဗ္ဘာသအားဖြင့် တည်ပုဒ်ဖြစ်လာ၏။

### အဗ္ဘာသ၏ ဥပဒေများ။

(၁) ကဝဂ်အက္ခရာကို စဝဂ်အက္ခရာဖြင့် ဒွေးဘော်ပြု၏။ ပြယုဂ်၊ ဂမ်, √ သွားခြင်း–ဇဂမ်။

(၂) ဟ–ကို ဇ–ဖြင့် ဒွေးဘော်ပြု၏။ ပြယုဂ်၊ √ဟာ, စွန့်ပစ်ခြင်း–ဇဟာ။

(၃) အသံတင်းအက္ခရာကို အသံလျော့အက္ခရာဖြင့် ဒွေးဘော်ပြု၏။ ပြယုဂ်၊ √ဓာ,ဆောင်ခြင်း–ဒဓာ။

(၄) ရှေ့အလုံးထက်မှာ နိဂ္ဂဟိတ်လာရ၏။ပြယုဂ်၊ √ကမ်, သွားခြင်း–စင်္ကမ်။

(၅) တံတခါ အာ ကို အ ဖြင့် ဒွေးဘော်ပြု၏။ ပြယုဂ်။ √ဒါ–ဒဒါ။

တရံတခါ ဦ ကို အ ဖြင့် ။ ။ √ဘူ–ဗဘူဝ။
။ ဥ ကို ဣ ဖြင့် ။ ။ √ဂုပ်–ဇိဂုပ်။
။ အ ကို ဣ ဖြင့် ။ ။ √ဃသ်–ဇိဃသ်။

॥ အာ ကို ဣ ဖြင့် ॥ ॥√ပါ–ပိဝ॥

॥ အာ ကို ဤ ဖြင့် ॥ ॥√မာန်–ဝီမံ॥

(၆) ပါကိုဒွေးဘော် ဆောင်လျှင် ရှေ့ ပါ က ပိ ဖြစ်၍ နောက် ပါ က ဝ ဖြစ်ရသည်။ပြယုဂ်၊ √ပါ–ပိဝသတိ။မာန် ဓာတ် က မာကို ဒွေးဘော် ဆောင်လျှင် ရှေ့မာက ဝီ ဖြစ်၍ နောက် မာန် က မံ ဖြစ်ရသည်။ ပြယုဂ်၊√မာန်–ဝီမံသတိ။

ကိတ်ဓာတ်ကို ဒွေးဘော်ဆောင်လျှင် ရှေ့ကိမှာ တ ဖြစ်ရ သည်။ ပြယုဂ်၊ √ကိတ်–တိကိစ္ဆတိ။

## **အဇ္ဇတနီကာလ (အတိတ်)**

ယနေ့ကစ၍ အနီးဖြစ်သော အတိတ်ကာလ၊ မျက်မှောက် မျက်ကွယ်အရပ်ဌာနတို့၌အသုံးပြုသည်။

| **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|
| ၁။အဟံ ပစိံ,ကျွန်ုပ် ချက်ပြီ။ | မယံ ပစိမှာ,ကျွန်ုပ်တို့ချက်ကြပြီ။ |
| ၂။တွံ ပစိ,သင်ချက်ပြီ။ | တုမှေ ပစိတ္ထ,သင်တို့ချက်ကြပြီ။ |
| ၃။သော၊သာ၊တံ ပစိ,သူချက်ပြီ။ | တေ၊တာ၊တာနိ ပစိံသု,သူတို့ချက်ကြပြီ။ |

* ဉ၊ဥ ဆုံးသော ပုလ္လိင်နာမ်များ ဝိဘတ်သွယ်ပုံ။

ကပိ,မျောက်။

| | **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| ကတ္တာ | –ကပိ။ | ကပီ၊ကပယော။ |
| သာမိ၊သမ္ပဒါန | –ကပိနော၊ကပိဿ။ | ကပီနံ။ |
| ကမ္မ | –ကပိံ။ | ကပီ၊ကပယော။ |
| ကရဏ | –ကပိနာ။ | ကပီဟိ။ |
| အပါဒါန | –ကပိနာ၊ကပိသ္မာ၊ ကပိမှာ။ | ကပီဟိ။ |
| ဩကာသ | –ကပိမှိ၊ကပိသ္မိံ။ | ကပီသု။ |
| အာလပန | –ကပိ။ | ကပီ၊ကပယော။ |

မှတ်ချက်။ ။ကတ္တာဗဟုဝုစ်ကိန်း၌။ကပယော–ဟူသော ပုဒ်ကို သတိပြုရာ၏။

## သက္ခီ, သက်သေ။

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
| --- | --- | --- |
| ကတ္တာ | –သက္ခီ။ | သက္ခီ၊ သက္ခိနော။ |
| သာမီ၊သမ္ပဒါန | –သက္ခိနော၊သက္ခိဿ။ | သက္ခီနံ။ |
| ကမ္မ | –သက္ခိံ၊သက္ခိနံ။ | သက္ခီ၊သက္ခိနော။ |
| ကရဏ | –သက္ခိနာ။ | } သက္ခီဟိ။ |
| အပါဒါန | –သက္ခိနာ၊သက္ခိသ္မာ၊ သက္ခိမှာ။ | |
| ဩကာသ | –သက္ခိနိ၊သက္ခိသ္မိံ၊ သက္ခိမှိ။ | } သက္ခီသု။ |
| အာလပန | –သက္ခိ။ | သက္ခီ၊သက္ခိနော။ |

ဧကဝုစ်ကမ္မနှင့်ဗဟုဝုစ်ကတ္တာ၊ကမ္မဝိဘတ်တို့ကိုသတိပြုပါ။

ကပိ–ကဲ့သို့ဝိဘတ်သွယ်သောပုလ္လိင်နာမ်များ။ ။အဂ္ဂိ,မီး။ အရိ,ရန်သူ။ဣသိ,ရသေ့။ဂဟပတိ,အိမ်ရှင်။ ဂိရိ,တောင်။နိဓိ,နံ့ထားသောဥစ္စာ။မဏိ,ပတ္တမြား။မုနိ,ရဟန်း။ရာသိ,အစုအပေါင်း။သာရထိ,ရထားထိန်း။ သေဋ္ဌိ,သူဌေး။

သက္ခီ–ကဲ့သို့ ဝိဘတ်သွယ်သော ပုလ္လိင်နာမ်များ။ ။ကုဋ္ဌီ, အနူ။ ပါပကာရီ,မကောင်းပြုသူ။ မန္တီ,မင်းတိုင်ပင်အမတ်။ ဝေရီ,ရန်သူ။ဟတ္ထီ,ဆင်။

√ ပစ် –ကဲ့သို့ ဝိဘတ် သွယ်သော ပဌမ ဂိုဏ်းကြိယာများ။ ။ဣစ္ဆတိ √ဣသ်,အလိုရှိ၏။ခါဒတိ √ခါဒ်,စား၏။ ခိပတိ √ ခိပ်, ပစ်၏။ စရတိ √ စရ်, လှည့်လည်သွား၏။ ဒံသတိ √ ဒံသ်,ကိုက်၏။ ဓာဝတိ √ ဓာဝ်,ပြေး၏။ ရမတိ √ ရမ်, မွေ့လျော်၏။ သိက္ခတိ √သိက္ခ်,သင်၏၊ကျင့်၏။

ဘာသာပြန်။ ။(၁) ဂဟပတယော ဩဒနံ ခါဒန္တိ။ (၂)မယံ ဝဇိရံ (ပါနှ–စိန်) ဣစ္ဆိမှာ။ (၃) တယော နိဓီနံ ရာသိမှိ နိသီဒိံသု။ (၄) သာရထိ ရဋ္ဌေန ရဋ္ဌံ စရတိ။ (၅) မယံ ကညာယ ဇီဝိတံ ဒဒါမ။ (၆) တေ မမ ဘတ္တံ ခါဒိံသု။

(၁) သူသည် စိန်ကိုစေတီပေါ်သို့ပစ်ပြီ။ (၂) ရန်သူတို့ သည်လှည်းဖြင့်ပြေးကြပြီ။ (၃) ကျွန်ုပ်သည် လှေ၌လျှောင်းပြီ။ (၄) သူတို့သည်သူ၏ဆင်ကို ရေဖြင့်ဆေးကြပြီ။ (၅) ကျွန်ုပ်၏ အရီးသည်မီးကို အလိုရှိပြီ။ (၆) မျောက်တို့သည် အနူကို စေတီ၏အရိပ်၌ကိုက်ကြပြီ။

## အခဏ်း ၇။

## ဒုတိယကြိယာဂိုဏ်း။*

ဤဂိုဏ်း၌ပါဝင်ကြသောဓာတ်တို့မှာ၊ တည်ပုဒ်ဖြစ်စေရန်၊ အ–ပစ္စည်းတွဲဆက်၍၊ ဓာတ်၏နောက်မှဆုံးဗျည်းအရှေ့၌၊ နိဂ္ဂဟိတ်ကိုသွတ်သွင်းရ၏။ငင်းနိဂ္ဂဟိတ်သည်လည်း ဓာတ်၏ နောက်ဆုံးဗျည်းနှင့်သက်ဆိုင်သောနာသိကအက္ခရာအဖြစ်သို့ ပြောင်းလဲသွား၏။ ပြယုဂ်။

√ ဆိဒ်,ဖြတ်ခြင်း +အ=ဆိဒ=ဆိံဒ=ဆိန္ဒ။ ဆိန္ဒတိ, ဖြတ်၏။

√ ပိသ်,ကြိတ်ခြင်း + အ = ပိသ = ပိံသ။ ပိံသတိ, ကြိတ်၏။

√ ဘုဇ်, စားခြင်း + အ = ဘုဇ=ဘုံဇ=ဘုဉ္ဇ။ ဘုဉ္ဇတိ, စား၏။

√ မုစ်,လွတ်ခြင်း + အ = မုစ = မုံစ = မုဉ္စ။ မုဉ္စတိ, လွတ်၏။

√ ရုဓ်,ပိတ်ပင်ခြင်း + အ = ရုဓ = ရုံဓ = ရုန္ဓ။ ရုန္ဓတိ, ပိတ်ပင်၏။

√ လိပ်,လိမ်းကျံခြင်း +အ=လိပ=လိံပ=လိမ္ပ။ လိမ္ပတိ, လိမ်းကျံ၏။

* ငင်းကိုပါဠိသဒ္ဒါကျမ်းကြီးတို့၌ ရုဓာဒိဂိုဏ်း–ဟုခေါ်သည်။

အာဏတ္တိ။

| | |
|---|---|
| ၁။ အဟံ ပစာမိ၊ကျွန်ုပ်ချက်ပါရစေ။ | မယံ ပစာမ,ကျွန်ုပ်တို့ချက်ကြစို့။ |
| ၂။ တွံ ပစာဟိ၊ပစ,သင်ချက်လော့။ | တုမှေ ပစထ, သင်တို့ချက်ကြလော့။ |
| ၃။ သော၊သာ၊တံ ပစတု,သူချက်စေ။ | တေ၊တာ၊တာနိ ပစန္တု,သူတို့ချက်ကြစေ။ |

## ဥပသာရနှင့်နိပါတများ။

အဓိ,အပေါ်၊ အထက်–ဩကာသကာရကနှင့်သုံးရသည်။

ပတိ,သို့၊ဘက်သို့၊အလို့ငှာ–ကမ္မကာရကနှင့် သုံးရသည်။

ဝိနာ,ကင်း၍၊ မပါဘဲ–တတိယာ ဝိဘတ်ဖြစ်သော နေ၊ ဧဟိတို့နှင့်သုံးရသည်။

သဟ၊သဒ္ဓိံ,အတူတကွ၊ နှင့် အတူ–တတိယာဝိဘတ်ဖြစ်သော နေ၊ဧဟိ တို့နှင့် သုံးရသည်။

ဥဒါဟရဏ်။ ။သကုဏော အဓိပဗ္ဗတေ ပလာယတိ, ငှက်သည် တောင်အပေါ်ကပျံသည်။

နဒိံ ပတိ ဓာဝန္တိ, သူတို့သည် မြစ်ဘက်သို့ ပြေးကြ၏။

ဝိနာ ဒေါသေန ဘာသတိ, သူသည် အပြစ်မပါဘဲ ပြောသည်။

ပုတ္တေန သဟ(သဒ္ဓိံ)ဂစ္ဆတိ,သူသည်သားနှင့်အတူတကွ သွားသည်။

အောက်ပါနိပါတများကို သာမီကာရကနှင့်သုံးရသည်။

ဥပရိ, အထက်၌။ ဩရတော, ဤမှာဘက်၌။ ဒူရတော, အဝေး၌။ ပစ္ဆာ၊ ပစ္ဆတော, နောက်အဘို့၌။ ပါရတော, ဟိုမှာဘက်၌။ ပုရတော,အရှေ့၌။ ဗဟိ,အပ၌။ ဟေဋ္ဌာ,အောက်၌။

ဘာသာပြန်။ ။ (၁) သာ သကဋဿ ဥပရိ နိပဇ္ဇတိ။ (၂) မယံ နာဝါယ ဟေဋ္ဌာ ဝဖိရံ ခိပိမှာ။ (၃) ကညာယော

အမစ္စသဿ ပုရတော နိသီဒန္တိ။ (၄) မမ ပဉ္စာ စရ။ (၅) သော ရဋ္ဌသဿ ဗဟိ ဓာဝတိ။ (၆) တေ သမုဒ္ဒသဿ (ပ–ပင်လယ်) ပါရတော ဝသိံသု။ (၇) မမ ပုတ္တေန သဒ္ဓိံ ဂစ္ဆ။

(၁) တိုင်းပြည်အပဲ့တူးလော့။ (၂) ဆေးကို တောင်၏ ဤမှာဘက်၌ သူတို့စားကြစေ။ (၃) မိန်းကလေး၏ အဝေး၌ ထိုင်လော့။ (၄) ပင်လယ်၏ ဟိုမှာဘက်၌ ဥစ္စာဘဏ္ဍာကို သူတို့ ရကြပြီ။ (၅) သူဌေး၏သားအထက်၌ ထိုင်လော့။(၆) သူ့ကို ပြဿနာမေးလော့။ (၇) အိမ်၏အဝေး၌ငှက်တို့ပျံကြစေ။

## အခန်း ၁၈။

## တတိယကြီယာဂိုဏ်း။*

ဤဂိုဏ်း၌ပါဝင်သောဓာတ်တို့ကို တည်ပုဒ်ဖြစ်စေရန်၊ ယ–ပစ္စည်းကိုဆက်တွဲရ၏။ထိုအခါ ပြောင်းလဲခြင်း၂မျိုးဖြစ်နိုင်၏။

(၁) သရနှင့်ဆုံးသောဓာတ်၌ ယ–ကို တိုက်ရိုက်ဆက်တွဲနိုင်၏။ ပြယုဂ်။

√ဂါ, သီချင်းဆိုခြင်း+ယ=ဂါယ။

√ဈာ, ကြံခြင်း+ယ=ဈာယ။

(၂) ဓာတ်၏အဆုံးဗျည်းသည် ယ–ပစ္စည်းနှင့်တကွ၊ အောက်ပါအတိုင်းပြောင်းလဲ၏။

အဆုံးဗျည်း။

စ်+ယ=စ္စ။ ပြယုဂ်။ √ရစ်, နှစ်သက်ခြင်း+ယ=ရစ္စ။

ဏ်+ယ=ည –– √ဘဏ်, ပြောဆိုခြင်း+ယ=ဘည။

ဒ်+ယ=ဇ္ဇ –– √မဒ် H ယစ်မူး၊ရူးခြင်း +ယ=မဇ္ဇ။

* ၎င်းကို ပါဠိသဒ္ဒါကျမ်းကြီးတို့၌ ဒိဝါဒိဂိုဏ်းဟုခေါ်သည်။

န်+ယ=ည -- √မန်, H သိခြင်း +ယ=မည။
မ်+ယ=မ္ဗျ -- √ဗုဓ်, H သိခြင်း +ယ=ဗုဒ္ဓျ။
မ်+ယ=မ္မ -- √ဂမ်, သွားခြင်း +ယ=ဂမ္မ။
ဝ်+ယ=ဗ္ဗ -- √ဒိဝ်, H ကစားခြင်း +ယ=ဒိဗ္ဗ။
သ်+ယ=ဿ -- √ကသ်, ရေးခြစ်ခြင်း +ယ=ကဿ။
တ်+ယ=ယှ -- √သဟ်, H သည်းခံခြင်း +ယ=သယှ။

(မှတ်ချက်။ ။ပြခဲ့ပြီးသည့်ဓာတ်များအနက် Hဤအမှတ်ပြသည့်ဓာတ်များသာ တတိယကြိယာဂိုဏ်းဓာတ်ဖြစ်၍ကတ္တုရုပ်ဖြစ်၏။ ကျန်ဓာတ်တို့မှာကမ္မရုပ်ဖြစ်သည်။)

## ၀၊၉ ဆုံးသော ဣတ္ထိလိင်နာမ်များဝိဘတ်သွယ်ပုံ။

### ဇာတိ, ဖြစ်ခြင်း၊ မွေးဖွားခြင်း။

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| ကတ္တာ | –ဇာတိ။ | ဇာတီ၊ဇာတိယော။ |
| သာမိ၊သမ္ပဒါန | –ဇာတိယာ။ | ဇာတီနံ။ |
| ကမ္မ | –ဇာတိံ။ | ဇာတီ၊ဇာတိယော။ |
| ကရဏ၊အပါဒါန | –ဇာတိယာ။ | ဇာတီဟိ။ |
| ဩကာသ | –ဇာတိယာ၊ဇာတိယံ။ | ဇာတီသု။ |
| အာလုပန | –ဇာတိ။ | ဇာတိယော။ |

မှတ်ချက်။ ။အပါဒါန–ဇာတိယာနှင့်ဇာတိယံတို့မှာ ၀ သရကြေ၍၊ဇာတျာ၊ဇာတျံဟူ၍လည်း ရသင့်၏။ အများအားဖြင့်ဒွေဘော်ရေ့၌ ဒီဃသရရှိမြဲမဟုတ်သောကြောင့် ဇတျာ၊ဇတျံတို့၌ ဇာ ကို ဇ ပြောင်းလဲရသည်။ ၎င်းပြင် သန္ဓိဥပဒေ အတိုင်း တိ၊ တျ တို့နောက်၌ သရရှိလျှင်၊ ၎င်းတို့ကို စ္စ–အဖြစ်သို့ ပြောင်းလဲရသည်။ ထို့ကြောင့် ဇတျာ၊ဇတျံ=ဇစ္စာ၊ဇစ္စံ။

နဒီ,မြစ်။

| | **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| ကတ္တာ | –နဒီ။ | နဒီ၊နဒိယော။ |
| သာမီ၊သမ္ပဒါန | –နဒိယာ။ | နဒီနံ။ |
| ကမ္မ | –နဒိံ၊နဒိယံ။ | နဒီ၊နဒိယော။ |
| ကရဏ၊အပါဒါန | –နဒိယာ။ | နဒီဟိ။ |
| ဩကာသ | –နဒိယာ၊နဒိယံ။ | နဒီသု။ |
| အာလပန | –နဒိ။ | နဒီ၊နဒိယော။ |

ဧကဝုစ် ကမ္မ ကာရကဌ် နဒ်ိယံ။ ဗဟုဝုစ် ကတ္တာ၊ ကမ္မ၊ အာလပနတို့၌ နဇ္ဇော။ ဧကဝုစ် သာမီ၊ သမ္ပဒါန၊ ကရဏ၊ အပါဒါနတို့၌ နဇ္ဇာ။ ဧကဝုစ် ဩကာသ၌ နဇ္ဇံ တို့ကိုလည်း ရသင့်၏။

အနာဂတ်ကာလ။

ဿ–သည် အနာဂတ် ပစ္စည်းဖြစ်သည်။ ၎င်းကို ဓာတ်နှင့် ပစ္စုပ္ပန် ဝိဘတ်များ အကြားတွင် ထည့်သွင်းရသည်။ ထိုသို့ ထည့်သွင်း၍ ပြီးသော် အနာဂတ်ဝိဘတ်ဟူ၍ ခေါ်သင့်၏။ ပြယုဂ်။

| | **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| ၁။ | ပစိဿာမိ,ကျွန်ုပ်ချက်မည်၊လတ္တံ့။ | ပစိဿာမ။ |
| ၂။ | ပစိဿသိ။ | ပစိဿထ။ |
| ၃။ | ပစိဿတိ။ | ပစိဿန္တိ။ |

ဥ၊ဦ နှင့်ဆုံးသော ဣတ္ထိလိင်နာမ်များ။ ။ဣတ္ထီ, မိန်းမ။ ဣဒ္ဓိ,တန်ခိုးအာနုဘော်။ ဒေဝီ,မိဖုရား။ ပစ္စရီ,ဖောင်။ ပထဝီ, မြေကြီး။ ပီတိ, ဝမ်းမြောက်ခြင်း။ ပေါက္ခရဏီ,လေးထောင့်ကန်။ဘဂိနီ,နှမ။ဘိသိ,ဖျာ။ ဘူမိ,မြေကြီး။ ဘေရီ ,စည်ကြီး။

ရတိ,တပ်နှစ်သက်ခြင်း။ ရတ္တိ,ညဉ့်။ ဝလ္လီ,နွယ်ပင်။ ဝီထိ,ခရီးလမ်း။ ဝုဋ္ဌိ,မိုးရွာခြင်း။ သတ္တိ,သံလျက်။ သိရီ, အသရေ။

ဘာသာပြန်။ ။(၁) သာ မယှံ ရုစ္စတိ (ဤကြိယာကို သာမိကာရကနှင့်သုံးရသည်။) (၂) သေဋ္ဌိနော ပုတ္တာ ဝီထိယံ ဒိဗ္ဗိံသုန္တိ။ (၃) တေ မိဂံ သီဟသ္မာ မုစ္စိံသုန္တိ။ (၄) တာယော အမစ္စေန သဟ ဂစ္ဆိံသုန္တိ။ (၅) တေ ဝိနာ သကဋ္ဌေန စရိံသုန္တိ။ (၆) အမှာကံ ဘဂိနီ ရတိံ လဘိံသတိ။ (၇) မယံ သူရိယံ ရတ္တိယံ န ပဿာမ။ (၈) တေ ဘေရိံ ဘူမိယံ ခိပိံသု။

(၁) မိန်းကလေးသည် မကောင်းပြုသူ၏ လက်၌ ပတ္တမြားကိုမြင်လတ္တံ့။ (၂) ဆင်နှင့်အတူတကွ ပြေးလော့။ (၃) ကျွန်ုပ်၏သားနှင့်အတူတကွ ဖောင်ပေါ်မှာ ထိုင်လော့။ (၄) သူတို့သည် တန်ခိုး အာနုဘော်များ အားဖြင့် သိကြ လိမ့်မည် (√ဗုဓ်)။ (၅) အနူ၏ လက်ကို ဆေးဖြင့် လိမ်းကျံလော့။ (၆) ခြသေ့်သည် သမင်ကို သတ်လတ္တံ့။ (၇) သူတို့သည် မိဖုရား၏ အသရေကို မြင်ကြလတ္တံ့။ (၈) မိန်းမကလေးသည် ဖျာကို ကန်အောက်၌ပစ်လတ္တံ့။

## **အခန်း ၉။**

## **စတုတ္ထကြိယာဂိုဏ်း။***

ဤအမျိုး၌ပါဝင်သော ဓာတ်တို့မှာ ဏာ၊ဏော၊ဥဏာ၊ ပစ္စည်း တခုခုကို ဆက်သွယ်လျှင်၊ တည်ပုဒ်ဖြစ်၏။ ပြယုဂ်၊ ပ+√အပ်, ရောက်ခြင်း–ပါပုဏာတိ။ √ဝု,ပိတ်ပင်ခြင်း–ဝုဏာတိ။ √သု,ကြားခြင်း–သုဏောတိ။ √ဟိ,သွားခြင်း–ဟိဏာတိ။

* ၎င်းကို ပါဠိသဒ္ဒါကျမ်းကြီးတို့၌ သွာဒိဂိုဏ်းဟုခေါ်သည်။

## –၂ သရဆုံးသော ပုလ္လိင်နာမ်များဝိဘတ်သွယ်ပုံ။
## ကေတု, တံခွန်။

| | **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| ကတ္တာ | –ကေတု။ | ကေတူ၊ကေတဝေါ။ |
| သာမီ၊သမ္ပဒါန | –ကေတုနော၊ကေတုဿ။ | ကေတူနံ။ |
| ကမ္မ | –ကေတုံ။ | ကေတူ၊ကေတဝေါ။ |
| ကရဏ | –ကေတုနာ။ | ကေတူဟိ။ |
| အပါဒါန | –ကေတုနာ၊ ကေတုသ္မာ၊ ကေတုမှာ။ | (ကေတူဟိ။) |
| ဩကာသ | –ကေတုမှိ၊ ကေတုသ္မိံ။ | ကေတူသု။ |
| အာလပန | –ကေတု။ | ကေတူ၊ကေတဝေါ၊ကေတဝေ။ |

ကေတဝေါ–ရုပ်ကိုမှတ်လေ။

ကေတု–ကဲ့သို့ ဝိဘတ်သွယ်သော ပုလ္လိင် နာမ်များ။ ။ ကဋစ္ဆု,ယောင်းမ၊ ဇွန်း။ ဖရသု,ပုဆိန်။ဗိန္ဒု,အစက်။ဘိက္ခု, ရဟန်း။ မစ္စု,သေခြင်း။ ဝေဠု,ဝါးပင်။ သေတု,တံတား။ ဟေတု,အကြောင်း။

### ဥပသာရနှင့်နိပါတများ(အဆက်။)

အ(ဗျည်းရှေ့) –မ၊ မဟုတ်။ ပြယုဂ်၊အဂတ,သွားအပ်သည် မဟုတ်။

အန်(သရရှေ့) အ.နာစိက္ခိတ,ပြောကြားအပ်သည်မဟုတ်။

အတိ–လွန်၍၊အလွန်အကျူး။ ပြယုဂ်၊အတိကရဏာ,အလွန် အကျူးသနားခြင်း။

အနု–အစဉ်လိုက်၊နောက်သို့။ ပြယုဂ်၊ အနုဓာဝတိ,နောက်သို့ လိုက်ပြေးသည်။

အန္တော–အတွင်း၊ အထဲ။ ပြယုဂ်၊ အန္တောနဂရံ,မြို့တွင်း။

အပ–မှ၊ က၊ မထီမဲ့မြင်၊ ဖယ်သွားခြင်း။ ပြယုဂ်၊ အပဂစ္ဆတိ,

(တစုံတရပ်)မှ ဖယ်သွားသည်။ အပဝဒတိ, ကဲ့ရဲ့ပြစ်တင်သည်။

အဘိ–ရှေးရှု၊ ကောင်းစွာ၊ အလွန်၊ သို့။ ပြယုဂ်၊ အဘိဂစ္ဆတိ, (တစုံတရပ်)သို့ သွားသည်။ အဘိမုခ, ရှေ့ရှုဖြစ်သော။ အဘိဇာနာတိ,ကောင်းစွာသိသည်။

အဝ(ဩ) –အောက်သို့၊ မထီမဲ့မြင်။ပြယုဂ်၊ အဝဂစ္ဆတိ, အောက်သို့သွားသည်။

အာ–သို့၊ရှေ့ရှု၊အနီး။ပြယုဂ်၊ အာပဗ္ဗတံ,တောင်၏ရှေ့ရှု။ (အချို့သော ကြိယာ၏ အဓိပ္ပါယ်ကို ပြောင်းပြန် လှန်ခြင်း အနက်၌လည်း သုံးသည်။ ပြယုဂ်၊ ဒါ, ပေးခြင်း–အာဒါတိ, ယူသည်။ √ဂမ်, သွားခြင်း–အာဂစ္ဆတိ,လာသည်။)

ဥ(ဗျည်းရှေ့)
ဥဒ်(သရရှေ့)
–အထက်၊တဘက်ကမ်း။ပြယုဂ်၊ဥဂ္ဂစ္ဆတိ (ဥဒ်+ဂစ္ဆတိ), အထက်သို့သွားသည်။ ဥဒဂ္ဂ(ဥ+အဂ္ဂ) အထက်သို့တက်သော အဖျား။

ဥပ–အောက်သို့၊နောက်သို့၊ရှေ့ရှု၊အနီး။ ပြယုဂ်၊ဥပရာဇာ, အိမ်ရှေ့မင်း။

ဒု –မကောင်း၊ဆိုးသော၊ခဲယဉ်းသော။ပြယုဂ်၊ဒုဒ္ဒသော, မြင်ဘို့ခဲယဉ်းသော။ ဒုဇ္ဇန(ဒု+ဇန),လူဆိုး။

နိ(ဗျည်းရှေ့)
နိရ်(သရရှေ့)
–မရှိ၊ကြဉ်ခြင်း၊ထွက်မြောက်ခြင်း၊အောက်၊ အပြင်သို့။ပြယုဂ်၊နိသီဒတိ,ထိုင်၏။ နိဂစ္ဆတိ, အပြင်သို့သွားသည်။ နိရုပကာရ,အချည်းနှီးဖြစ်သော။

နီ–အပြင်သို့။ပြယုဂ်၊ နီဟရတိ,အပြင်သို့ဆောင်ယူသည်။

ပ–ကျွေကျွင်းခြင်း၊သို့၊လွှတ်ခြင်း။ ပြယုဂ်၊ ပက္ခန္ဒတိ, တဘက်သို့ပြေးဝင်သည်၊ ခုန်သည်။

ပဋိ(ပတိ)–တဘန်၊ပြင်ခြင်း၊ဆန့်ကျင်ခြင်း၊ တူညီခြင်း။ ပြယုဂ်၊ပဋိကရောတိ,ပြင်သည်။ ပ.စ္စာ.ဂစ္ဆတိ(ပတိ+အာ +ဂစ္ဆတိ,)ပြန်လာသည်။

ပရာ–ရှုံးခြင်း၊ယုတ်ခြင်း၊ဆန့်ကျင်ခြင်း။ ပြယုဂ်၊ပရာဇယတိ, ရှုံးသည်။

ပရိ–အနားပတ်လည်၊ထက်ဝန်းကျင်၊ကောင်းစွာ။ ပြယုဂ်၊ ပရိဂ္ဂဏှာတိ, ဘက်ယမ်းသည်၊ ဝိုင်းရံသည်။ ပရိဇာနာတိ, ကောင်းစွာသိသည်။

ဝိ–မှ၊ပြင်သို့၊အလွန်၊အပြားပြား၊ငြင်းခုံခြင်း။ပြယုဂ်၊ ဝိဂစ္ဆတိ,ခွဲခွါသည်။ ဝိရောစတိ,အသံကျယ်စွာအော်သည်။

သံ–အတူတကွ၊ကောင်းစွာ၊အလုံးစုံ။ပြယုဂ်၊ သံဟရတိ, စုပေါင်းသည်။ သဇ္ဇာနာတိ,ကောင်းစွာသိသည်။

သု–ကောင်းသော၊ကောင်းစွာ၊ လွယ်သော။ ပြယုဂ်၊ သုရူပ,ကောင်းသော ရုပ်၊ လှသော။ သုဇာတ, ကောင်းစွာ ဖြစ်သော။

ဟိ–အကြောင်းမူကား၊ စင်စစ်မူကား။ ပြယုဂ်၊ ပါပကာရီ ဟိ သောစတိ, အကြောင်းမူကား၊ မကောင်းမှုပြုသူသည် ဝမ်းနည်းရ၏။

မှတ်ချက်။ ။ပါဠိဘာသာ၌–အတိ၊အဓိ၊အနု၊ အပ၊ အပိ၊ အဘိ၊ အဝ၊ အာ၊ ဥ၊ ဥပ၊ဒု၊နိ၊နီ၊ပ၊ပတိ၊ပရာ၊ပရိ၊ဝိ၊သံ၊သု– တို့ကို ဥပသာရနှစ်ဆယ်ဟူ၍မှတ်ယူကြကုန်၏။

ဘာသာပြန်။ ။(၁) ကညာ အန္တောနဂရံ ပါပုဏိဿတိ။ (၂) တေ နော အပဝဒိံသု။ (၃) အမစ္စာ ရဇ္ဇာနိ ရက္ခိဿန္တိ။ (၄) ဘိက္ခဝေါ သေတုမှိ နိပဇ္ဇိဿန္တိ။ (၅) သီဟော မိဂံ အနုဓာဝတိ။ (၆) မယံ ပရာဇယံ ဂစ္ဆိဿာမ။ (၇) တုမှာကံ

ပုတ္တာ သကုဏေဟိ သဟ ကီဠန္တိ (√ကီဠ,ကစားခြင်း။) (၈) မယံ တေသံ ဥယျာနေ ကီဠာမ။ (၉) ကညာယ ဥယျာနေ ဥဒကံ ပိဝ( √ပါ,သောက်ခြင်း။)။

(၁) သူတို့သည် အသံကို ကောင်းစွာသိကြပြီ။(၂) အမတ်၏သားအဝေး၌ထိုင်ပါ။ (၃)သူတို့သည် ရဟန်းကို ပေါက်ဆိန်ဖြင့်သတ်လတ္တံ့။ (၄) ကျွန်ုပ်တို့သည် သား၏လှည်းပေါ်၌ သူဌေးနှင့်အတူတကွ စားကြလတ့ံ။ (၅)သူတို့သည် ဆင်နောက်သို့ ပြေးလိုက်ကြပြီ။(၆) သင်တို့၏အစာကို စားကြလော့။(၇) အိမ်ရှေ့မင်းသည် လူဆိုးကို သံလျက်ဖြင့်သတ်ပြီ။ (၈)သူတို့သည် အမတ်များနှင့် အတူတကွ မြို့သို့ပြန်ကြလိမ့်မည်။ (၉) အမတ်၏ဥယျာဉ်၌ လျှောင်းကြလော့။

## အခဏ်း ၁၀။

## ပဉ္စမကြိယာဂိုဏ်း။*

နာ–ပစ္စည်းကိုခံတတ်မှာ ဆက်သွယ်လျှင် တည်ပုဒ်ဖြစ်၏။ ပြယုဂ်၊ √ကီ,ဝယ်ခြင်း–ကီဏာတိ၊ကိနာတိ။ √စိ,ဆည်းပူးခြင်း–စိနာတိ။ √ဇိ,အောင်မြင်ခြင်း–ဇိနာတိ။ √အသ်,စားခြင်း–အသ္နာတိ။ √ယု,ဖွဲ့နှောင်ခြင်း–ယုနာတိ။

သတ္တမီ ဝိဘတ်။

| ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|
| အမှ–ပစေယျာမိ၊ပစေ,ကျွန်ုပ်ချက်ရာ၏။ | ပစေယျာမ။ |
| တုမှ–ပစေယျာသိ၊ ပစေ။ | ပစေယျာထ။ |
| နာမ–ပစေယျ၊ ပစေ။ | ပစေယျုံ။ |

* ၎င်းကိုပါဠိသဒ္ဒါကျမ်းကြီးတို့၌ ကိယာဒိဂိုဏ်းဟုခေါ်သည်။

## –ု သရဆုံးသော ဣတ္ထိလိင်နာမ်များဝိဘတ်သွယ်ပုံ။

### ဓေနု,နွားမ။

| | **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| ကတ္တာ | –ဓေနု။ | ဓေနူ၊ဓေနုယော။ |
| သာမီ၊သမ္ပဒါန | –ဓေနုယာ။ | ဓေနူနံ။ |
| ကမ္မ | –ဓေနုံ။ | ဓေနူ၊ဓေနုယော။ |
| ကရဏ၊အပါဒါန | –ဓေနုယာ။ | ဓေနူဟိ။ |
| ဩကာသ | –ဓေနုယာ၊ဓေနုယံ။ | ဓေနူသု။ |
| အာလပန | –ဓေနု။ | ဓေနူ၊ဓေနုယော။ |

### ဓေနု ကဲ့သို့ ဝိဘတ်သွယ်သော ဣတ္ထိလိင်နာမ်များ။

ဥသု,မြား။ ဓာတု, သရီရဓာတ်တော်။ ယာဂု, ထမနဲ။ ရဇ္ဇု,ကြိုး။ သဿု, ယောက္ခမမိန်းမသူ။

## –ိနှင့် –ု ဆုံးသော နပုန်းလိင်နာမ်များ ဝိဘတ်သွယ်ပုံ။

### (က) အဋ္ဌိ,အရိုး။

| | **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| ကတ္တာ | –အဋ္ဌိ။ | အဋ္ဌီ၊အဋ္ဌီနိ။ |
| သာမီ၊သမ္ပဒါန | –အဋ္ဌိနော၊အဋ္ဌိဿ။ | အဋ္ဌီနံ။ |
| ကမ္မ | –အဋ္ဌိံ။ | အဋ္ဌီနိ၊ အဋ္ဌီနိ။ |
| ကရဏ | –အဋ္ဌိနာ။ | အဋ္ဌီဟိ။ (ကရဏ၊အပါဒါန) |
| အပါဒါန | –အဋ္ဌိနာ၊အဋ္ဌိသ္မာ၊ အဋ္ဌိမှာ။ | |
| ဩကာသ | –အဋ္ဌိသ္မိံ၊ အဋ္ဌိမှိ။ | အဋ္ဌီသု။ |
| အာလပန | –အဋ္ဌိ။ | အဋ္ဌီ၊အဋ္ဌီနိ။ |

အဘိဓာန်။ ။အက္ခိ,မျက်စိ။ ဝါရိ,ရေ။ သတ္တိ,အစွမ်း။ သပ္ပိ,ထောပတ်။

(ခ) စက္ခု, မျက်စိ။

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
| --- | --- | --- |
| ကတ္တာ | –စက္ခု။ | စက္ခူ၊ စက္ခူနိ။ |
| သာမီ၊သမ္ပဒါန | –စက္ခုနော၊စက္ခုဿ။ | စက္ခူနံ။ |
| ကမ္မ | –စက္ခုံ။ | စက္ခူ၊ စက္ခူနိ။ |
| ကရဏ | –စက္ခုနာ။ | စက္ခူဟိ။ |
| အပါဒါန | –စက္ခုနာ၊စက္ခုသ္မာ၊ စက္ခုမှာ။ | စက္ခူဟိ။ |
| ဩကာသ | –စက္ခုသ္မိံ၊ စက္ခုမှိ။ | စက္ခူသု။ |
| အာလပန | –စက္ခု။ | စက္ခူ၊ စက္ခူနိ။ |

အဘိဓာန်။ ။အဿု, မျက်ရည်။ အာယု,အသက်။ ဒါရု, ထင်း။

မှတ်ချက်။ ။ဳဆုံးသော နပုန်းလိင် နာမ်များဟူ၍ သီးခြားမရှိ။ သုခကာရီ ဒါနံ ဟူသော ဝါကျမှ သုခကာရီ သဒ္ဒါစသည်တို့သည် ဳဆုံးသော နပုန်းလိင်နာမ်ဖြစ်ကြ၏။ ဝိဘတ်သွယ်ပုံမှာ အဋ္ဌိနှင့် တူသည်။ ဂေါတြဘူ စသော သဒ္ဒါတို့သည် –ူဆုံးသော နပုန်းလိင်နာမ်ဖြစ်ကြ၏။ ဝိဘတ်သွယ်ပုံမှာ စက္ခုနှင့်တူသည်။

–ူ ဆုံးသော ပုလ္လိင်နှင့် ဣတ္ထိလိင်နာမ်များသည်၊ –ု ဆုံးသောနာမ်များကဲ့သို့ ဝိဘတ်သွယ်ကြသဖြင့်၊ ၎င်းတို့ကို ဘော်ပြရန်မလိုချေ။ ပြယုဂ်၊ ဝရူ (ဣ),ရွေးမ–ဝရယာ(သာမီကာရက)။

**သမ္ဗန္ဓနများ။***

စ,နှင့်
ဝါ,သို့မဟုတ်၊ဖြစ်စေ
သော်၎င်း
} ပုဒ် ၂ ခုဆက်သည်။ ရံခါ ဝါကျ ၂ ခုကိုလည်းဆက်၏။

* ပါဠိသဒ္ဒါကျမ်းကြီးတို့အလိုအားဖြင့်။နိပါတများပင်ဖြစ်၏။

သစေ } လျှင်၊မူ၊အကယ်၍–ဝါကျ ၂ ခု ဆက်သည်။
စေ

ပန,မူကား၊သို့သော်လည်း } ဝါကျ ၂ခု ဆက်သည်။
သို့ရာတွင်။
ဥဒါဟု, သို့မဟုတ်

စ . . .စ, ၎င်း . . . ၎င်း။

ဝါ . . . ဝါ, ဖြစ်စေ . . . ဖြစ်စေ။သော်၎င်း . . . သော်၎င်း။

ယဒါ,အကြင်အခါ . . တဒါ,ထိုအခါ။

ယထာ, အကြင်ကဲ့သို့ . . တထာ,ထိုကဲ့သို့။

ယတ္ထ,အကြင်အရပ် . . . တတ္ထ,ထိုအရပ်။

ယာဝ } အကြင်မျှလောက်သော ကာလ၊အကြင်ရွေ့။ . . .။
ယာဝတာ

တာဝ } ထိုမျှလောက်သောကာလ၊ ထိုရွေ့။
တာဝတာ

မှတ်ချက်။ ။စ၊စေ၊ပန တို့ကို ဝါကျအစ၌မသုံးရ။ စေနှင့် ပန တို့ကိုအများအားဖြင့်၊ ကတ္တားနောက်ကသော်၎င်း၊ ဝါကျတွင် ဒုတိယ နေရာ၌သော်၎င်း၊ အသုံးပြုရသည်။

သစေ–ဖြင့် ဝါကျကိုစနိုင်သည်။

ဥဒါဟရဏ်များ။ ။အမစ္စော စ ပုတ္တော စ, အမတ်၎င်း၊ သား၎င်း။ အမတ်နှင့်သား။တခုသော စ–ကိုမြှုပ်ထားနိုင်သည်။ ဥဒါဟရဏ်၊အမစ္စော စ ပုတ္တော။သို့မဟုတ်၊အမစ္စောပုတ္တော စ။

အမစ္စော ဝါ ပုတ္တော ဝါ
အမစ္စော ဝါ ပုတ္တော } အမတ်ဖြစ်စေ၊ သားဖြစ်စေ။
အမစ္စော ပုတ္တော ဝါ

သစေသော အာဂစ္ဆတိ အဟံ နိသီဒိဿာမိ } သူလာလျှင်၊
သော စေ အာဂစ္ဆတိ အဟံ နိသီဒိဿာမိ } ကျွန်ုပ်ထိုင်မည်။

အဟံ ပစေယျာမိ သော ပန မံ ရုန္ဓိ, ကျွန်ုပ်သည် ချက်ပြုတ်ရာ၏။ သို့ရာတွင်သူကတားမြစ်ပြီ။

ယဒါ သော အာဂစ္ဆတိ တဒါ ဘုဉ္ဇိဿာမိ, အကြင်အခါ သူလာ၏။ ထိုအခါ ကျွန်ုပ်စားအံ့။ (သူလာသော အခါ ကျွန်ုပ်စားအံ့။)

ယထာ သော နာဂစ္ဆတိ တထာ ကရိဿာမိ, အကြင်ကဲ့သို့ပြုသော် သူမလာအံ့။ ထိုကဲ့သို့ ကျွန်ုပ်ပြုလတံ့ (သူမလာအောင် ကျွန်ုပ်ပြုလတံ့။)

ယတ္ထ တုမှေ ကညံ ပဿထ တတ္ထ နိသီဒထ, အကြင်အရပ်၌သင်တို့သည် မိန်းကလေးကို မြင်ကြအံ့၊ ထိုအရပ်၌ ထိုင်ကြလော့။ (မိန်းကလေးကို မြင်သော အရပ်၌ သင်တို့ ထိုင်ကြလော့။)

ယာဝ သော ဗုဒ္ဓံ ပဿိ တာဝ အဘိဝန္ဒိ, အကြင်မျှလောက်သူသည် ဘုရားကိုမြင်၏။ ထိုမျှလောက် ရှိခိုးပြီ။ (ဘုရားကိုမြင်နိုင်သရွေ့ ကာလအတွင်း သူသည်ရှိခိုးပြီ။)

ဘာသာပြန်။ ။(၁)သင်တို့သည် သူ့ကို မြင်လျှင်၊ သူ့လှည်းကို တောင်းကြပါ။ (၂) အကြင်ရွေ့ မိန်းကလေးသည် မလျှောင်း၊ ထိုရွေ့ သူသည် မိဖုရားကိုမမြင်အံ့။ (၃) ကျွန်ုပ်၏နှစ်မနှင့် နှစ်မသားသည် သူ့မိဖုရားနှင့် အတူတကွ သွားကြပြီ။ (၄) သူတို့သည် ဖျာပေါ်မှာ မထိုင်ကြရာ။ (၅) ပတ္တာများကို ဥယျာဉ်အတွင်းသို့ ပစ်လိုက်။ (၆) သူလာလျှင်၊ ကျွန်ုပ်တို့သည် မြစ်သို့ သွားကြရာ၏။ (၇) သင်တို့သည် သူတို့ကို ဥယျာဉ်၌ တွေ့မြင်သောအခါ၊ ကျွန်ုပ်အားပြောပါ။ (၈) အစာရနိုင်သရွေ့စားပါ။ (၉) သူတို့သည် သံလျက်ဖြင့် ဆင်ကို သတ်ကြရာ၏။ သို့ရာတွင် ကျွန်ုပ်က တားမြစ်ပြီ။ (၁၀) ကျွန်ုပ်သား၊ နှစ်မတို့နှင့် အတူတကွ မိဖုရား၏ဥယျာဉ်သို့ သွားကြပါ။

## အခဏ်း ၁၁။

## ဆဋ္ဌကြိယာဂိုဏ်း။*

ဤအမျိုး၌ ပါဝင်သော ဓာတ်တို့မှာ ပ္ပ၊ဏှာ ပစ္စည်းတခုခုကိုဆက်သွယ်လျှင် တည်ပုဒ်ရ၏။ဥဒါဟရဏ်၊ √ဂဟ်,ယူခြင်း–ဂဏှာတိ(ဟ–ကြေ။) √ဂဟ်,ယူခြင်း–ဃေပ္ပတိ(ဂဟ=ဃေ)။

## ဟိယျတ္တနီကာလ။

ယမနေ့ကစ၍အတိတ်ကာလ၊ မျက်မှောက် မျက်ကွယ်အရပ်တို့၌ အသုံးပြုသည်။

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| အမှ– | အပစံ၊ပစံ,ကျွန်ုပ်ချက်ခဲ့ပြီ။ | အပစမှာ။ |
| တုမှ– | အပစော။ | အပစတ္ထ။ |
| နာမ– | အပစာ၊ပစာ။ | အပစူ၊ပစူ။ |

ပုဒ်အစ၌ အ–အက္ခရာကို သတိပြုပါ။

အာမေဍိတ် H နှင့် အာလပန။

အမ္ဘော,အို၊အချင်း။

အမ္မ,အိုအမိ။

အယျ,အိုအရှင်သခင်၊ ခင်ဗျား။

အယျာ၊အယျေ, အိုအရှင်မ၊ အိုသခင်မ။

အလံ,တန်တော့ (ကရဏကာရကနှင့်သုံးရသည်။ဥဒါဟရဏ်၊ အလံ အမ္ဘေတိ, သရက်သီးဆို၍တန်တော့။)

* ဤဂိုဏ်းကိုကစ္စည်းသဒ္ဒါကြီးကျမ်း၊ပုဒ်စစ်ကျမ်းစသည်တို့မှာ၊ ဂဟာဒိဂိုဏ်းဟူသောအမည်ဖြင့် ဂိုဏ်းသီးခြားပြုလုပ်၍ အားလုံး ကြိယာဂိုဏ်း ရှစ်ဂိုဏ်း ရှိကြောင်း ကိုဆိုသည်။ ရူပသိဒ္ဓိစသောကျမ်းတို့၌ကား၊၎င်းဂိုဏ်းကိုပဥ္စမကြိယာဂိုဏ်း။သို့မဟုတ်ကိယာဒိဂိုဏ်းထဲသို့သွင်း၍ အားလုံးကြိယာဂိုဏ်း ခုနစ်ဂိုဏ်းသာပြဆို၏။

H ပါဠိသဒ္ဒါကျမ်းကြီးတို့၌ကား၊ ကြောက်လန့်ခြင်းစသော အကြောင်းတို့ကြောင့်အနက်တခုတည်းမှာ၊နိပါတ်ပုဒ်ကိုဖြစ်စေ၊နာမ်ပုဒ်ကိုဖြစ်စေ၊ကြိယာပုဒ်ကိုဖြစ်စေ၊စကားနှစ်ခွန်းထပ်၍ဆိုခြင်းကိုသာ အာမေဍိတ်ဟု ပြဆိုကြ၏။ အာလပနအရာ၌ နိပါတ်ပုဒ်ဖြစ်စေ၊နာမ်ပုဒ်ဖြစ်စေ၊ ရှေ့ရှုခေါ်သောအခြင်းအရာဖြင့်သုံးလျှင် အာလပနဖြစ်၏။

အာဝုသော,ငါ့သျှင်(ဝါတူသောရဟန်းများအနက်။ အချင်းချင်းဖြစ်စေ၊ ဝါကြီးသောရဟန်းက ဝါငယ်သောရဟန်းအားဖြစ်စေ အသုံးပြုရသည်။)

ဇေ,ဟေ့။

တာတ,ချစ်ဆွေ။

ဒေဝ(ပု) }
ဒေဝီ(ဣ) } အရှင်ဘုရား။

ဘဏေ,အချင်း၊အမင်း၊အမောင်။

ဘဒ္ဒန္တေ၊ဘဒ္ဒေ,အဘယ်၊ချစ်ဆွေ။

ဘန္တေ,အသျှင်(ဝါငယ်သောရဟန်းက ဝါကြီးသော ရဟန်းအား အသုံးပြုသည်။)

ဘော, အို၊ အို...တို့။

ရေ၊အရေ, ဟဲ့(ယုတ်သောသူကိုခေါ်ရာ၌အသုံးပြုသည်။)

ဝတ,စင်စစ်။

သမ္မ,အချင်း၊အဆွေ။

သာဓု,ကောင်းပေစွ။

ဟန္ဒ,ယခု။ (တိုက်တွန်းရာ၌သုံးသည်။)

## သတ္တမကြိယာဂိုဏ်း။*

ဤအမျိုး၌ပါဝင်သော ဓာတ်တို့မှာ ဩ၊ ယိရ-ဟူသော ပစ္စည်းတခုခုကို ဆက်သွယ်လျှင် တည်ပုဒ်ကိုရ၏။ဥဒါဟရဏ်၊

√ကရ်,ပြုခြင်း-ကရောတိ၊ဝါ၊ကယိရတိ(ရ်-ကြေ)။

√တန်,ချဲ့ထွင်ခြင်း-တနောတိ။

√သက်,စွမ်းခြင်း-သက္ကောတိ(က-ဒွေးဘော်။)

ဘာသာပြန်။ ။(၁) အမစ္စော ဝေရိံ ဓိနေယျ။ (၂) ရဌ္ဌံ ဝေါ ဂစ္ဆေယျ။ (၁) သစေ သီဟံ ပဿေယျုံ တံ အနုဓာ

* ၎င်းကို ပါဠိသဒ္ဒါကျမ်းကြီးတို့၌ တနာဒိဂိုဏ်းဟုခေါ်သည်။

ဝေယျုံ။ (၄) ဗုဒ္ဓဿ သန္တိကေ ဩဿဓ လဘေယျုံ။ (၅) ပဿ၊ ဓာဝတိ။ (၆) သော မမ ရဋ္ဌံ အဂမာ။ (၇) ကညာယော နာဝါယ အာဂမုံ။ (၈) ပုတ္တော စေတိယံ အဂမာ။ (၉) တေ သကဋ္ဌေန အာဂမုံ။ (၁၀) သော ဘိက္ခုနော ဩဿဓံ အဒါ။

(၁) သားသည် ရှင်ဘုရင်ထံသို့လှေဖြင့်သွားခဲ့ပြီ။ (၂) သူတို့သည် ဥယျာဉ်၌ခြင်္သေ့ကို မြင်ခဲ့ကြပြီ။ (၃) ထိုင်ပါခင်ဗျား။ (၄) အဆွေ၊ ကျွန်ုပ်သားနှင့်အတူသွားပါ။ (၅) ချစ်ဆွေ၊ သင့်သားကို အမတ်စောင့်ရှောက်ပါစေ။ (၆) သူဖြစ်စေ၊ သူ့သားဖြစ်စေ၊ သင့်အိမ်သို့လာလိမ့်မည်။ (၇) ကျွန်ုပ်နှစ်မသော်လည်းကောင်း၊ မိဖုရားသော်လည်းကောင်း၊ သူ့နောက်၌ မထိုင်ပြီ။ (၈) မကောင်းပြုသူသည်ငင်း၊ လူဆိုးသည်ငင်း၊ ငရဲလားလတ္တံ့။ (၉) သင်စကားပြော(သလ္လာပ-ပ) တန်တော့။ (၁၀) ဟော့၊နက်ဖြန် (သွေ-နိပါတ)ငါ၏အိမ်သို့ လာရမည်။

## အခဏ်း ၁၂။

### ကာလတိပတ္တိ။

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| အမ- | အပစိဿံ,ကျွန်ုပ်ချက်ရာပြီ။ | အပစိဿမှ၊ပစိဿမှ၊အပစိဿာမှာ။ ပစိဿာမှာ။ |
| တုမ- | အပစိဿေ၊အပစိဿ၊ပစိဿ။ | အပစိဿထ။ |
| နာမ- | အပစိဿာ၊အပစိဿ၊ပစိဿ။ | အပစိဿံသု၊ပစိဿံသု။ |

## နာမဝိသေသန။

ငင်းတို့သည် ညွှန်အပ်သောနာမ်နှင့်လိင်၊ ကိန်း၊ ဝိဘတ်တို့၌ညီညာစေရမည်။ဥဒါဟရဏ်၊ဗာလော ပုတ္တော, မိုက်သောသားသည်။ ဗာလေန ပုတ္တေန, မိုက်သောသားဖြင့်။ ဗာလာ ကညာ, မိုက်သောမိန်းကလေးသည်။ ဗာလာယ ကညာယ, မိုက်သော မိန်းကလေးဖြင့်။ သုန္ဒရံ ရဋ္ဌံ, သာယာသော နိုင်ငံသည်။ သုန္ဒရေန ရဋ္ဌေန,သာယာသောနိုင်ငံဖြင့်။

များသော နာမဝိသေသနတို့ကို ပုလ္လိင်၌ ပုရိသ ကဲ့သို့၊ ဣတ္ထိလိင်၌ ကညာကဲ့သို့၊ နပုန်းလိင်၌ ဃရံကဲ့သို့ ဝိဘတ်ဆက်သွယ်ရသည်။

အဘိဓာန်။ ။ကုသလ,လိမ္မာသော၊ကောင်းသော။ ဒီဃ,ရှည်သော။ ဒုက္ခ,ဆင်းရဲသော။ ပဏ္ဍိတ,ပညာရှိသော။ပါပ,ဆိုးသော။မဟလ္လက, အသက်ကြီးသော။သစ္စ,မှန်သော။ သီတလ, အေးသော။ သုခ,ချမ်းသာသော။

နာမဝိသေသနတို့ကို နာမ်တို့နှင့်သမာသ်ပြု၍ သုံးနိုင်၏။ ဥဒါဟရဏ်၊ ပဏ္ဍိတပုရိသော, ပညာရှိသောသူသည်။ ပါပကမ္မံ, ဆိုးသော အမှုသည်။ ဖရုသဝစနံ, ကြမ်းတမ်းသော စကားသည်။

ဣ၊ဤ၊ဥ၊ဦ၏ တို့နှင့်သုံးသော နာမဝိသေသနတို့ကို (ဥဒါဟရဏ်၊ဘူရိ,များသော။မာနီ,ထောင်လွှားခြင်းရှိသော။ ဗဟု,များသော။ ကတညူ,ကျေးဇူးသိတတ်သော။) အဆိုပါ သရတို့နှင့်ဆုံးသော နာမ်များကဲ့သို့ ဝိဘတ်သွယ်ရမည်။)

## အဋ္ဌမကြိယာဂိုဏ်း။*

ဤအမျိုး၌ပါဝင်သော ဓာတ်တို့မှာ ေ၊ သို့မဟုတ် အယကိုဆက်သွယ်လျှင် တည်ပုဒ်ရသည်။ အများအားဖြင့် ဓာတ်၏ သရသည် ဂုဏ်မြောက်သည်။

ဣ၊ဤ တို့၏ ဂုဏသည် ေ ဖြစ်၏။

ဥ၊ဦ တို့၏ဂုဏသည် ဩ ဖြစ်၏။

ဥဒါဟရဏ်။ √ကထ်,ပြောဆိုခြင်း –ကထေတိ၊ကထယတိ။
√ဂုပ်,စောင့်ခြင်း –ဂေါပေတိ၊ဂေါပယတိ။
√စုရ်,ခိုးခြင်း –စောရေတိ၊စောရယတိ။
√ဆဍ္ဍ်,စွန့်ပစ်ခြင်း –ဆဍ္ဍေတိ၊ဆဍ္ဍယတိ။

* ၎င်းကို ပါဠိသဒ္ဒါကျမ်းကြီးတို့၌ စုရာဒိဂိုဏ်း–ဟုခေါ်သည်။

√တီရ်,ကူးခြင်း –တီရေတိ၊တီရယတိ။
√ပုသ်,မွေးမြူခြင်း –ပေါသေတိ၊ပေါသယတိ။

ဘာသာပြန်။ ။(၁) သစေ သော ရဇ္ဇံ အလဘိဿာ ကုသလံ ဘာဝေယျ။ (၂) သစေ သော ပဗ္ဗဇ္ဇံ (ဣ–ရဟန်း အဖြစ်) အလဘိဿာ အရဟာ (ရဟန္တာ) အဘိဝဿာ။ (၃)သစေ တေ ဝေရိံ အပဿိဿံသု တံ အဝဓိဿံသု။ (၄) သစေ သာ ရထံ (ပ–ရထား) အလဘိဿာ အမစ္စဿ ရဇ္ဇံ အဂစ္ဆိဿာ။ (၅) အဟံ မဟလ္လကဿ ပုရိသဿ ဃရသ္မိံ နိပဇ္ဇိံ။ (၆) တေ ပါပကမ္မာနိ ကရောန္တိ။ (၇) ဗာလော ပုရိသော နိရယံ ဂစ္ဆိဿတိ။ (၈) တေ ကုသလာနိ ကမ္မာနိ ကရောန္တိ။ (၉) ကညာယော သီတလာယံ ဆာယာယံ နသီဒိံသု။ (၁၀) တေ ဒီဃံ အဒ္ဓါနံ (န–အချိန်) နိပဇ္ဇိံသု။

(၁) မိုက်သော အမတ်ကို သတ်ပါ။ (၂) လှည်းရနိုင်ခဲ့လျှင်၊ ကျွန်ုပ်တို့သည် သူတို့နှင့် အတူသွားနိုင်ရာပြီ။ (၃) တံတားပေါ်မှာ အသက်ကြီးသောသူကို သူတို့ မြင်ကြ လေပြီ။ (၄) ကောင်းသော အမှုတို့ကို ပြုကြပါ။ (၅) မကောင်းမှုတို့ကိုမလုပ်ရာ (သတ္တမီကာလ ဝိဘတ်ကိုသုံးပါ။) (၆) သင်တို့ဖြစ်စေ၊ သူ(ဣ)ဖြစ်စေ၊ ကျွန်ုပ်ကို ကြည့်ရမည်။ (၇) သင်တို့ ထမင်း ချက်လျှင်၊ ကျွန်ုပ်စားမည်။ (၈) မိုက်သော မိန်းကလေးများနှင့်တကွ သူတို့ ကစားကြပြီ။ (၉) သူ့ ဥယျာဉ်မှ သရက်သီးကို ကျွန်ုပ်ခိုးပြီ။ (၁၀) နက်ဖြန် ပင်လယ်ကို ကျွန်ုပ်တို့ကူးကြမည်။

## အခဏ်း ၁၃။

## ကိတ်နာမ်များ

၎င်းတို့သည် နာမဝိသေသနများကဲ့သို့ ညွှန်အပ်သော နာမ်နှင့် လိင်၊ ကိန်း၊ ကာရက တို့၌ ညီညွတ်စေရမည်။

တည်ပုဒ်၌ န္တ ကို ဆက်သွယ်လျှင် ပစ္စုပ္ပန်ကိတ်နာမ် ပရဿပဒ ရ၏။ ဥဒါဟရဏ်၊ ပစန္တ(ပ)။ ပစန္တီ(ဣ)။ ပစန္တံ(န), ချက်ပြုတ်သော။ ထို့အပြင်၊ ပစံ–ဟူသောပုဒ်ကိုလည်း ပုလ္လိင်နှင့် နပုန်းလိင်တို့၌ရ၏။ ပစ္စုပ္ပန်ကိတ်နာမ်ကို ပုလ္လိင်၌ ပုရိသ–ကဲ့သို့။ဣတ္ထိလိင်၌နဒီ–ကဲ့သို့။နပုန်းလိင်၌ ဃရံ–ကဲ့သို့ ဝိဘတ်ဆက်သွယ်ရသည်။

ပစ္စုပ္ပန်ကိတ်နာမ်မှာ အလိုရှိရာဓာတ်၏နောက်တွင် အတ သော်ငင်း အန္တ သော်ငင်း ဆက်လျှင်တည်ပုဒ်ဖြစ်၏။ အန္တ–ဆက်သောတည်ပုဒ်မှ ပစန္တ(√ ပစ်+အန္တ)။ပစန္တီ(√ ပစ်+ အန္တ+ဳ)။ပစန္တံ (√ ပစ်–အန္တ+အံ)ဟူ၍ ရ၏။

အတ–ဆက်သော တည်ပုဒ်မှ ဣတ္ထိလိင် ပစတီ(√ ပစ်+အတ+ဳ)ဟူ၍ရ၏။ ၎င်းကို ပစန္တီ–ကဲ့သို့ပင် ဝိဘတ်သွယ်ရသည်။ ပုလ္လိင်နှင့် နပုန်းလိင်တို့၌မူကား၊ အောက်၌ ဘော်ပြထားသည့် ထူးခြားသောအချက်များကို မှတ်သားအပ်၏။

| | **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| ကတ္တာ | –ပစံ။ | |
| သာမီ၊သမ္ပဒါန | –ပစတော။. . . . . . . . . . | ပစတံ။ |
| ကရဏ၊အပါဒါန | –ပစတာ။ | |
| ဩကာသ | –ပစတိ။ | |

ထို့ကြောင့် ပစ္စုပ္ပန်ကိတ်နာမ်ကို အောက်ပါအတိုင်းအပြည့်အစုံ ဝိဘတ်သွယ်ရာ၏။

ဧကဝုစ်

| | **ပုလ္လိင်** | **ဣတ္ထိလိင်** | **နပုန်းလိင်။** |
|---|---|---|---|
| ကတ္တာ | –ပစံ။ | ပစတီ။ | ပစံ။ |
| | –ပစန္တော။ | ပစန္တီ။ | ပစန္တံ။ |

| | | | |
|---|---|---|---|
| သာမီ } | –ပစတော။ | ပစတိယာ။ | ပစတော။ |
| သမ္ပဒါန } | –ပစန္တဿ။ | ပစန္တိယာ။ | ပစန္တဿ။ |
| ကမ္မ | –ပစန္တံ။ | ပစတိံ။ | ပစန္တံ။ |
| | | ပစန္တိံ။ | |
| ကရဏ | –ပစတာ။ | ပစတိယာ။ | ပစတာ။ |
| | –ပစန္တေန။ | ပစန္တိယာ။ | ပစန္တေန။ |
| အပါဒါန | –ပစတာ။ | ပစတိယာ။ | ပစတာ။ |
| | ပစန္တသ္မာ။ | ပစန္တိယာ။ | ပစန္တသ္မာ။ |
| | ပစန္တမှာ။ | | ပစန္တမှာ။ |
| သြကာသ | –ပစတိ။ | ပစတိယာ။ | ပစတိ။ |
| | ပစန္တေ။ | ပစန္တိယာ။ | ပစန္တေ။ |
| | ပစန္တသ္မိံ။ | ပစတိယံ။ | ပစန္တသ္မိံ။ |
| | ပစန္တမှိ။ | ပစန္တိယံ။ | ပစန္တမှိ။ |
| အာလပန | –ပစံ၊ပစ၊ပစာ။ | ပစတိ။ | ပစံ၊ပစ၊ပစာ။ |
| | ပစန္တ။ | ပစန္တိ။ | ပစန္တ။ |

## ဗဟုဝုစ်။

| | **ပုလ္လိင်** | **ဣတ္ထိလိင်** | **နပုန်းလိင်** |
|---|---|---|---|
| ကတ္တာ | –ပစန္တော၊ပစန္တာ။ | ပစတီ။ | ပစန္တာ၊ပစန္တာနိ။ |
| | | ပတိယော။ | |
| | | ပစန္တီ။ | |
| | | ပစန္တိယော။ | |
| သာမီ } | –ပစတံ။ | ပစတီနံ။ | ပစတံ။ |
| သမ္ပဒါန } | –ပစန္တာနံ။ | ပစန္တီနံ။ | ပစန္တာနံ။ |
| ကမ္မ | –ပစန္တေ။ | ပစတီ။ | ပစန္တာနိ၊ပစန္တေ။ |
| | | ပစတိယော။ | |
| | | ပစန္တီ။ | |
| | | ပစန္တိယော။ | |
| ကရဏ } | –ပစန္တေဟိ။ | ပစတီဟိ။ | ပစန္တေဟိ။ |
| အပါဒါန } | –ပစန္တေဘိ။ | ပစတီဘိ။ | ပစန္တေဘိ။ |
| | | ပစန္တီဟိ။ | |
| | | ပစန္တီဘိ။ | |
| သြကာသ | –ပစန္တေသု။ | ပစတီသု။ | ပစန္တေသု။ |
| | | ပစန္တီသု။ | |

| | | |
|---|---|---|
| အာလပန -ပစန္တော။ | ပစတိ။ | ပစန္တာ၊ပစန္တာနိ။ |
| ပစန္တာ။ | ပစတိယော။ | |
| | ပစန္တီ။ | |
| | ပစန္တိယော။ | |

ရာဇာ,(ရှင်ဘုရင်)ကို ဝိဘတ်သွယ်သော် ဆိုလတ္တံ့သော ထူးခြားချက်များကို လိုက်နာရာ၏။ ဆွေမျိုးပေါက်ဘော်အနက် ဟောပုဒ်များကိုလည်း ထိုအတိုင်း ဝိဘတ်သွယ်ရာ၏။ထိုပုဒ်တို့ ကား။ပိတာ, အဘ။မာတာ, အမိ။ဘာတာ,ညီအစ်ကို။ဓီတာ, သမီး။ဘတ္တာ၊လင်။နတ္တာ၊မြေး။သတ္ထာ၊ဆရာ။ကတ္တာ,ပြုတတ် သောသူ တို့ဖြစ်သတည်း။

ရာဇာ, ရှင်ဘုရင်။

| | **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| ကတ္တာ | -ရာဇာ။ | ရာဇာနော။ |
| သာမိ၊သမ္ပဒါန | -ရညော၊ရာဇိနော။ | ရညံ၊ရာဇူနံ၊ရာဇာနံ။ |
| ကမ္မ | -ရာဇာနံ၊ရာဇံ။ | ရာဇာနော။ |
| ကရဏ၊အပါဒါန | -ရညာ၊ရာဇေန။ | ရာဇူဟိ၊ရာဇူဘိ၊ရာဇေဟိ၊ရာဇေဘိ။ |
| ဩကာသ | -ရညေ(ရည+ဣ)၊ ရာဇိနိ။ | ရာဇူသု၊ရာဇေသု။ |
| အာလပန | -ရာဇ၊ရာဇာ။ | ရာဇာနော။ |

မှတ်ချက်။ ။မဟာရာဇာ, မြတ်သောမင်းကြီး၊ ဒေဝရာဇာ, နတ်မင်းကြီး၊ ဥပရာဇာ, အိမ်ရှေ့မင်းအစရှိသော ရာဇာ၏သမာသ်ပုဒ်တို့ကို ပုရိသ ကဲ့သို့ ဝိဘတ်သွယ်ရသည်။ အထူးကား၊ ဧကဝုစ် ကတ္တာ၌ မဟာရာဇာ။ သာမီ၌ မဟာရာဇဿ၊ မဟာရညော။ဗဟုဝုစ်ကိန်း၌ မဟာရာဇာနံ၊ မဟာရညံ ဟူ၍ ရသတည်း။

## ပိတာ, အဘ။(ပုလ္လိင်။)

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| ကတ္တာ | –ပိတာ။ | ပိတရော။ |
| သာမီ၊သမ္ပဒါန | –ပိတု၊ပိတုနော၊ ပိတုဿ။ | ပိတရာနံ၊ပိတာနံ၊ပိတူ။ |
| ကမ္မ | –ပိတရံ။ | ပိတရေ၊ပိတရော။ |
| ကရဏ၊အပါဒါန | –ပိတရာ။ | ပိတရေဟိ၊ပိတရေဘိ၊ပိတူဟိ၊ပိတူဘိ။ |
| ဩကာသ | –ပိတရိ။ | ပိတရေသု၊ပိတူသု။ |
| အာလပန | –ပိတ၊ပိတာ။ | ပိတရော။ |

## မာတာ,အမိ။ (ဣတ္ထိလိင်။)

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| ကတ္တာ | –မာတာ။ | မာတရော။ |
| သာမီ၊သမ္ပဒါန | –မာတု၊မာတုယာ။ | မာတရာနံ၊မာတာနံ၊မာတူနံ။ |
| ကမ္မ | –မာတရံ။ | မာတရော။ |
| ကရဏ၊အပါဒါန | –မာတရာ၊မတျာ။ | မာတရေဟိ၊မာတရေဘိ၊မာတူဟိ၊ မာတူဘိ။ |
| ဩကာသ | –မာတရိ။ | မာတရေသု၊မာတူသု။ |
| အာလပန | –မာတာ။ | မာတရော။ |

ဘာတာ,ညီ၊အစ်ကို။ ဘတ္တာ, လင်။ နတ္တာ,မြေး။ သတ္ထာ, ဆရာ။ငင်းတို့ကို ပိတာကဲ့သို့ ဝိဘတ်သွယ်ရသည်။အထူးကား၊ ရံ,ရာ,ရော ဟူသော ပစ္စည်းရှေ့၌ လာသော အ သည် အာဖြစ်သည်။ ဥဒါဟရဏ်၊ ဘတ္တာရံ၊ ဘတ္တာရာ၊ ဘတ္တာရော။ ။ ဓီတာ,သမီး။ ငင်းကို မာတာ ကဲ့သို့ ဝိဘတ်သွယ်ရသည်။

ဤပုဒ်တို့၏တည်ပုဒ်သည် ဥ နှင့်ဆုံး၍ဧကဝုစ်ကတ္တာကား၊ အာ–နှင့်ဆုံးကြောင်းမှတ်ပါ။ ဥဒါဟရဏ်။

တည်ပုဒ်–ပိတု၊ မာတု စသည်သည် ဧကဝုစ် ကတ္တာ– ပိတာ၊ မာတာ အစရှိသဖြင့် ဖြစ်၏။

မာတာပိတရော, မိဘ။

တည်ပုဒ်–မာတာပိတု။

| | | |
|---|---|---|
| ကတ္တာ | – | မာတာပိတရော။ |
| သာမီ၊သမ္ပဒါန | – | မာတာပိတူနံ။ |
| ကမ္မ | – | မာတာပိတရော။ |
| ကရဏ၊အပါဒါန | – | မာတာပိတူဟိ။ |
| သြကာသ | – | မာတာပိတူသု။ |
| အာလပန | – | မာတာပိတရော။ |

ဘာသာပြန်။ ။(၁) အဟံ သတ္ထာရံ ရုက္ခ ဂစ္ဆန္တံ ပဿိံ။ (၂) သာ ဘတ္တံ ပစန္တီ မရိ။ (၃) မဟာရာဇဿ ပုတ္တော ဝီထိယံ (ဝီထိ, လမ်း–ဣ) ဂစ္ဆန္တော ကညံ ဝဓိ။ (၄) သော တေဟိ သဒ္ဓိံ ကီဠန္တော ပုတ္တံ အနုဓာဝိ။ (၅) သော မမ ရဋ္ဌေ စရန္တဿ ပုရိသဿ ပုရတော နိပဇ္ဇိ။ (၆) မာတာပိတူနံ သြဝါဒံ(ပု–ဆုံးမခြင်း) သုဏောယျ။ (၇) ပိတရာ သဟ ဂစ္ဆန္တံ ပုတ္တံ ပက္ကောသိ(√ ကုသ်,ခေါ်ခြင်း။) (၈) မမ ဘာတာ စ ဘတ္တာ တေသံ နဂရံ သေဝ အာဂစ္ဆိဿန္တိ။ (၉) မယံ သတ္ထာရံ ဝန္ဒိဿာမ(√ဝန္ဒ်,ရှိခိုးခြင်း။) (၁၀) တဿ ကထံ သုဏာထ။

(၁) ရှင်ဘုရင်၏ ဥယျာဉ်၌ သမင့်နောက်သို့ ပြေးလိုက်နေသော လူကို ကျွန်ုပ်တို့ တွေ့ကြပြီ။ (၂) လမ်း၌ သွားကြစဉ် သူတို့သည် စေတီရှေ့၌ ထိုင်နေသော လူကို စကား ပြောဆိုကြပြီ။ (၃) ရှင်ဘုရင်၏အနီး၌ (သန္တိက၊သမီပ) ထိုင်လော့။ (၄) သူသည် ကောင်းမှုများကို ပြုပြီ။ (၅) ရှင်ဘုရင်၏ သားသမီးတို့သည် ကျွန်ုပ်၏ နိုင်ငံသို့ လာကြပြီ။ (၆) ဆင်ကို သတ်နေသော ခြင်္သေ့နောက်သို့ သူတို့ လိုက်ကြပြီ။ (၇) မြေးနှင့် အတူ ကစားနေသော မိန်းမသည် ကျွန်ုပ်၏ အိမ်၌ သေပြီ။ (၈) ရှင်ဘုရင့် ဆုံးမခြင်းကို သင်တို့ နားထောင် ကြရာ၏။ (၉) လမ်း၌ သွားကြစဉ် သူတို့သည် ခြင်္သေ့ကို သတ်ကြပြီ။

(၁၀) စင်စစ်မူကား၊ သူသည် သစ်ပင်(ရုက္ခ–ပ)ရိပ်၌ လျောင်း နေသောသူကို မြင်ပြီ။

## အခဏ်း ၁၄။

## ပရောက္ခာ

အခဏ်း ၆ ၌ ပေးထားသော နည်းအတိုင်း ဓာတ်ကို အဗ္ဘာသပြုရာ၏။

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| အမှ | –အပစ, ကျွန်ုပ်ချက်ပြီးပြီ။ | ပပစိမှ။ |
| တုမှ | –ပပစေ။ | ပပစိတ္ထ။ |
| နာမ | –ပပစ။ | ပပစု။ |

ပစ္စုပ္ပန်ကိတ်နာမ်၊အတ္တနောပဒ။

အလိုရှိရာ ဓာတ်၏နောက်တွင် မာန ကို ဆက်သွယ်လျှင် တည်ပုဒ် ဖြစ်သည်။ ဥဒါဟရဏ်၊ ပစမာန၊ (√ပစ် + အ + မာန)။ ၎င်းကို ပုလ္လိင်၌ ပုရိသကဲ့သို့၊ ဣတ္ထိလိင်၌ ကညာကဲ့သို့၊ နပုန်းလိင်၌ ဃရံကဲ့သို့ ဝိဘတ်သွယ်ရသည်။၎င်းသည် ပစ္စုပ္ပန် ကိတ် နာမ် ပရဿပဒနှင့် အနက်တူ၏။ မာန–ပစ္စည်းအစား အာနပစ္စည်းကိုလည်း အသုံးပြုနိုင်၏။ ဥဒါဟရဏ်။ ပစာနော၊ ပစာနာ၊ ပစာနံ။

သော၊သာ၊တံ ကို နာမဝိသေသနကဲ့သို့ အသုံးပြုခြင်း။

သော၊ သာ၊ တံ တို့ကို နာမ်ပုဒ်ရှေ့၌ ထားလျှင်၊ ၎င်းတို့သည် နိဒဿန နာမဝိသေသန ဖြစ်လာ၏။ဥဒါဟရဏ်။

ပုလ္လိင် { သော ပုရိသော, ထိုလူသည်။
တေဟိ ပုရိသေဟိ, ထိုလူတို့ဖြင့်။

ဣတ္ထိလိင် { သာ ကညာ, ထိုမိန်းကလေးသည်။
တိဿံ ကညာယံ, ထိုမိန်းကလေး၌။

နပုန်းလိင် { တံ ဃရံ, ထိုအိမ်သည်။
တေသု ဃရေသု, ထိုအိမ်များ၌။

အဆိုပါ ပုဒ်တို့ရှေ့၌ ဧ–အက္ခရာကို ထည့်လျှင်။ ထို၊ ဤ ဟူသော အနက်နှစ်မျိုးရ၏။ ဥဒါဟရဏ်။

ဧသော ပုရိသော, ထိုလူသည်၊ ဤလူသည်။

ဧသာ ကညာ, ထိုမိန်းမကလေးသည်၊ ဤမိန်းမကလေး သည်။

ဧတံ ဃရံ, ထိုအိမ်သည်၊ ဤအိမ်သည်။

ဘာသာပြန်။ ။(၁) သော အမစ္စော ဩဒနံ (ထမင်း) ပပစ။ (၂) ဘိက္ခူနံ ဒါနံ ဒဒတ္ထ။ (၃) အဟံ တံ ပုရိသံ နဂရသ္မာ အာဂစ္ဆမာနံ ပဿိံ။ (၄) ဧသာ ကညာ ဩဒနံ ပစာန မရိ။ (၅) တေ ဘိက္ခဝေါ သတ္ထာရာ သဒ္ဓိံ ဧတသ္မိံ ဃရမှိ နိပဇ္ဇိံသု။ (၆) ဧသော ဓီတာ မာတရာ သဟ ကီဠမာနာ ပတိ။ (၇)ဧသော နဒီ သုန္ဒရာ။ (၈) ဧသော ပုရိသော ရညော မဟန္တံ ရထံ စောရေတိ။ (၉) တေ မဟိသာ(ပ–ကျွဲ) တေသု အာဝါဋေသု (ပ–တွင်း) ပတိံသု။ (၁၀) မဟာရာဇာ ပုရောဟိတေ တေသံ အမစ္စာနံ ပဟိဏတိ(√ ဟိ, စေလွှတ် ခြင်း)။

(၁) ထိုမိန်းကလေး နောက်သို့ ပြေးလိုက်သော လူကို သတ်ပါ။ (၂) ထိုဖောင်မှာထိုင်ပါ။ (၃) ထိုအမတ်သားနှင့် အတူကစားနေသည်ကို မြင်လျှင်၊ ကျွန်ုပ် သင့်ကို သတ်မည်။

(၄) သင်တို့သည် မကောင်းမှုများကို ပြုကြလျှင်၊ သင်တို့ အိမ်သို့ ကျွန်ုပ်မလာ။ (၅) သူတို့သည် ကျွန်ုပ်သားနှင့် အတူမလာကြ။ (၆) ရှင်ဘုရင် နန်းတော်သို့ (ရာဇနိဝေသန–န) ထိုလူကလေးများကို(ဒါရက–ပ) စေလွှတ်ပါ။ (၇) ပုရောဟိတ်သည် ငွေဒင်္ဂါးကို (ရူပိယ–န) လိုချင်၏။ (၈) ဤမိန်းမတို့သည် ထိုတွင်း၌လျှောင်းကြပြီ။ (၉)ကျွန်ုပ်သားနှင့်သူ၏သမီးသည် ထိုအိမ်၌နေကြပြီ။ (၁၀)သူတို့သည် ဤတံတားပေါ်မှာ အိပ်ကြပြီ။ (နိဒ္ဒါယိံသု)။

## အခန်း ၁၅။
## အတိတ် ကိတ်နာမ်။

ဓာတ်၏နောက်တွင် တ–ဖြစ်စေ၊န–ဖြစ်စေ ဆက်၍ထည့်ခြင်းအားဖြင့်၊ အတိတ်ကိတ်နာမ်ဖြစ်၏။ တ–ကို သုံးမျိုးအားဖြင့် ထည့်နိုင်၏။

(က) သရဆုံးသောဓာတ်၌ တိုက်ရိုက်ဆက်သွယ်ရသည်။ ဥဒါဟရဏ် √ဇိ–ဇိတ, အောင်အပ်ပြီးသော။ √နီ–နီတ, ဆောင်ယူအပ်ပြီးသော။ √ဘူ–ဘူတ,ဖြစ်ပြီးသော။

(ခ) ဗျည်းဆုံးသော ဓာတ်၌ ိအားဖြင့် ဆက်သွယ်ရသည်။ ဥဒါဟရဏ်။ √ကထ်–ကထိတ, ပြောဆိုအပ်ပြီးသော။ √ ပစ်–ပစိတ, ချက်အပ်ပြီးသော။ √လိခ်–လိခိတ,ရေးအပ်ပြီးသော။

(ဂ) ဓာတ်၏ အဆုံး ဗျည်းနှင့် တ တို့ တွေ့ဆုံကြရာ၊ အောက်၌ဘော်ပြအပ်သော ပြောင်းလဲခြင်းများဖြစ်၏။

အဆုံး စ်+တ=တ္တ။ဥဒါဟရဏ်၊ √မုစ်+တ=မုတ္တ, လွတ်ပြီး
သော။

| | |
|---|---|
| ဇ်+တ=တ္တ။ | ။ √ဘုဇ်+တ=ဘုတ္တ, စားအပ်ပြီးသော။ |
| တ်+တ=တ္တ။ | ။ √ ပတ် + တ = ပတ္တ, ကျပြီးသော။ |
| ဓ်+တ=ဒ္ဓ။ | ။ √ ဗုဓ် + တ =ဗုဒ္ဓ, သိအပ်ပြီးသော၊ သိတတ်သော။ |
| ပ်+တ=တ္တ။ | ။ √ တပ်+တ=တတ္တ, ပူအပ်ပြီးသော။ |
| ဘ်+တ=ဒ္ဓ။ | ။ √ လဘ်+တ=လဒ္ဓ, ရအပ်ပြီးသော။ |
| မ်+တ+န္တ။ | ။ √ ဂမ်+တ=ဂန္တ, သွားအပ်ပြီးသော၊သွားတတ်သော။ |
| သ်+တ=ဋ္ဌ။ | ။ √ ကသ်+တ=ကဋ္ဌ, ထွန်အပ်ပြီးသော။ |
| ဟ်+တ=ဋ္ဌ။ | ။ √ ရုဟ်+တ=ရုဋ္ဌ, တက်အပ် ပြီးသော၊ တက်သော။ |

မှတ်ချက်။ ။အဆုံး န်၊ရ် တို့သည် တ-နှင့် ဆုံတွေ့သော် အများအားဖြင့် ကြေ၏။ ဥဒါဟရဏ်၊ √ ခန်, တူးခြင်း+တ=ခတ။ √ ကရ်, ပြုခြင်း+တ=ကတ။

တခါတရံ အဆုံး မ် လည်းကြေ၏။ဥဒါဟရဏ်၊ √ ဂမ်-ဂတ။

နပုန်းလိင် ကိတ်နာမ်တို့ကို၊ နာမ်သက်သက်ကဲ့သို့ သုံးနိုင်၏။ဥဒါဟရဏ်၊ √ဇီဝ်, အသက်ရှင်ခြင်း-ဇီဝိတံ,အသက်။ √ဂဇ္ဇ် မြိမ်းချောက်ခြင်း-ဂဇ္ဇိတံ, မိုးမြိမ်းသံ။

ကိတ်နာမ်ကို ကြိယာအဖြစ်ဖြင့် သုံးနိုင်၏။ ဥဒါဟရဏ်၊ သော နဂရံ ဂတော, သူမြို့သို့သွားပြီ။

န နောက်ဆက်သည် တ နောက်ဆက်လောက် အသုံး မများချေ။ ၎င်းကို အများ အားဖြင့်။ ဒ်၊ ရ် ဆုံးသော ဓာတ်၌ ထည့်ရသည်။ ဥဒါဟရဏ်, √ဆဒ်, ဖုံးလွှမ်းခြင်း–ဆန္န။ √ဆိဒ်, ဖြတ်ခြင်း–ဆိန္န။ နိ √သဒ်, ထိုင်ခြင်း–နိသိန္န။ √ကိရ်, ပြိုးပြွမ်း ခြင်း–ကိဏ္ဏ။ √ တရ်, ကူးဖြတ်ခြင်း=တိဏ္ဏ။

ဓာတ်၏ သရ ပြောင်းပုံကို မှတ်ပါ။ နငယ်က ဏကြီးသို့ ပြောင်းသည် ကိုလည်းမှတ်ပါ။ ဤသို့ဏကြီးသို့ ပြောင်းခြင်း မှာ၊ ဓာတ်၌ ရ် ကြောင့်ဖြစ်၏။ အခြားဥဒါဟရဏ်များကား၊ ဤသို့တည်း။ √ ဘဉ္ဇ်, ချိုးဖဲ့ခြင်း+တ=ဘဂ္ဂ။ √လဂ်, ကပ်ငြိ ခြင်း+တ=လဂ္ဂ။

န–ဆက်သွယ်သော၊ ဥဒါဟရဏ်များကား၊ √ လီ, ငြိကပ် ခြင်း–လီန။ √လူ, ရိတ်ဖြတ်ခြင်း–လူန။ √ဟာ, စွန့်ပစ်ခြင်း– ဟာန၊ ဟီန။

မှတ်ချက်။ ။ ကတ္တားအနက်ဖြစ်သော ဝါကျကို ကံ အ နက်ဖြစ်သော ဝါကျသို့ ပြောင်းပြီးလျှင်၊ အတိတ်ကိတ် အား ဖြင့် အဓိပ္ပါယ်ပြန်နိုင်၏။ ဥဒါဟရဏ်၊ ကျွန်ုပ်သည်ကုသိုလ်ကို ပြုခဲ့ပြီး–ဟူသော ဝါကျကို၊ ကုသိုလ်ကို ကျွန်ုပ်ပြုအပ်ပြီ–ဟူ၍ ပြောင်းပြီးလျှင်၊ကုသလံ မယာ ကတံ–ဟူ၍ အဓိပ္ပါယ်ပြန်နိုင် ၏ ။ဤအချက်ကိုကောင်းစွာမှတ်သင့်၏ ။

ဘာသာပြန်။ ။(၁) ဓမ္မော ဘိက္ခူဟိ သုတော။ (၂) ရဉ္ဉော ပုတ္တေန ဓိတံ။ (၃) သော ကညာ သကဋ္ဌေန တေသံ ဃရံ ဂတာ။ (၄) အမှေဟိ ကုသလံ အကတံ။ (၅) ဃရံ အဂ္ဂိနာ အာဒိတ္တံ။ (၆) သော ရုက္ခော တသ္မာ ပဗ္ဗတသ္မာ ပထိတော။ (၇) တေ မနုဿာ ဧတေသံ အာသနာနံ (န–အင်းပျဉ်) ပေဌာ နိဒ္ဒါယိံသု။ (၈) တသ္မိံ ရဋ္ဌေ သော ဥပရာဇာ သင်္ဂါ

မေ(ပ–စစ်ပွဲ) ပရာဇိတော (ဆုံးရှုံး၏)။ (၉) အမှာကံ ပိတုနော တောနိ သကဋ္ဌာနိ ဒဒါဟိ။ (၁၀) တဿ ရာသိနော ဧတေ ကောဋ္ဌာသာ (အဖို့အစု) တဿ ပုရိသဿ မယာဒိန္နာ။

(၁) ကျွန်ုပ်တို့သည် ကောင်းမှုတို့ကို မပြုခဲ့ကြပြီ။ (၂) သူတို့သည် ရှင်ဘုရင့်ဆင်ဖြင့်မြို့သို့သွားကြပြီ။ (၃) ဖောင်ပေါ်မှာ ထိုင်နေပြီးသော လူကိုကျွန်ုပ်တို့ မြင်ကြပြီ။ (၄) သူတို့သည် ကျွန်ုပ်တို့အစာကိုစားကြပြီးပြီ။ (၅) ငှက်ကိုမုဆိုးသတ်အပ်ပြီ။ (၆) မကောင်းမှုပြုသူတို့သည် ငရဲလားကြလတံ့။ (၇) အိမ်၌ သေပြီးသောလူကိုသူတို့မြင်ကြပြီ။ (၈) ရှင်ဘုရင်သည် ရန်သူမှ (ဝေရီ–ပ) ဆုံးရှုံးပြီ။ (၉) ထိုမိန်းကလေးတို့သည် ဤအင်းပျဉ်များ၌ထိုင်ကြပြီ။ (၁၀) ရတနာများ၏ အစုအပုံကို ဤလူများ ခိုးအပ်ပြီ။

## အခဏ်း ၁၆။

## အန္တယီ နှင့် ပုစ္ဆာ နာမ်စားများ။*

ယ(အန္တယီနာမ်စား), အကြင်၊ အကြင်သူ။

ပုလ္လိင်။

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| ကတ္တာ | –မယာ။ | ယေ။ |
| သာမီ၊သမ္ပဒါန | –ယဿ။ | ယေသံ။ |
| ကမ္မ | –ယံ။ | ယေ။ |
| ကရဏ | –ယေန။ | ယေဟိ။ |
| အပါဒါန | –ယသ္မာ၊ယမှာ။ | ယေဟိ။ |
| ဩကာသ | –ယသ္မိံ၊ယမှိ။ | ယေသု။ |

* ၎င်းကို ပါဠိသဒ္ဒါကျမ်းကြီးတို့မှာ သဗ္ဗနာမ်ဟု ခေါ်၍ သဗ္ဗနာမ်ကမှ ဆယ်မျိုးခွဲပြီးလျှင် ယ–ကို ပယောဂဝန္တ သဗ္ဗနာမ်။ က–ကို ပုစ္ဆာသဗ္ဗနာမ်ဟု ခေါ်၏။

## ဣတ္ထိလိင်

| | | |
|---|---|---|
| ကတ္တာ | –ယာ။ | ယာ၊ ယာယော။ |
| သာမီ၊သမ္ပဒါန | –ယာယ၊ယဿာ။ | ယာသံ။ |
| ကမ္မ | –ယံ။ | ယာ၊ယာယော။ |
| ကရဏ၊အပါဒါန | –ယာယ။ | ယာဟိ။ |
| ဩကာသ | –ယာယံ၊ယဿံ။ | ယာသု။ |

## နပုန်းလိင်

| | | |
|---|---|---|
| ကတ္တာ | –ယံ။ | ယာနိ။ |
| သာမီ၊သမ္ပဒါန | –ယဿ။ | ယေသံ။ |
| ကမ္မ | –ယံ။ | ယာနိ။ |
| ကရဏ | –ယေန။ | ယေဟိ။ |
| အပါဒါန | –ယသ္မာ၊ယမှာ။ | (ယေဟိ။) |
| ဩကာသ | –ယသ္မိံ၊ယမှိ။ | ယေသု။ |

ယ–နည်းတူ၊ ဝိဘတ်သွယ်အပ်သော အနိယတ နာမ်စား များ။

| | | |
|---|---|---|
| အည | အခြား | အညတရ,အခြား၊တစ်ခုတစ်ရာ၊အချို့။ |
| ဣတရ | အခြား | ပုဗ္ဗ, ရှေး၊ ရှေ့။ |
| ပရ | တခြား | သဗ္ဗ, အလုံးစုံ၊ ခပ်သိမ်း။ |

(ဤအရာ၌လည်း သဒ္ဒါကျမ်းကြီးတို့အလိုအားဖြင့် အည၊ ဣတရ၊ပရ၊အညတရ၊သဗ္ဗ တို့ကို သဗ္ဗသဗ္ဗနာမ်။ ပုဗ္ဗကို ကာလ သဗ္ဗနာမ်။သို့မဟုတ် ဒိသာသဗ္ဗနာမ်ဟုခေါ်၏။)

ဘော်ပြအပ်ပြီးသော နာမ်စားတို့သည် ဗဟုဝုစ်ကတ္တား၌ ဧ နှင့် ဆုံးကြောင်းမှတ်ပါ။

က(ပုစ္ဆာနာမ်စား), အဘယ်သူ၊အဘယ်သင်း။

ဤနာမ်စားကို ယ–နည်းတူပင် ဝိဘတ်သွယ်ပါ။ သို့သော် နပုန်းလိင်ဧကဝုစ် ကတ္တာနှင့်ကမ္မကာရကတို့ကား ကံ–ဟူ၍

မဖြစ်ဘဲ၊ကိံ–ဖြစ်သည်ဟုမှတ်လေ။ဥဒါဟရဏ်၊ကိံ ကရိဿတိ, သူဘာကိုလုပ်မည်နည်း။

မှတ်ချက်။ ။ကိံ–၌ အံ–နိဂ္ဂဟိတ်သည် ဗျည်းနှောင်းရာ မှာနှောင်းသော ဝဂ်အက္ခရာသို့လိုက်၍ (အခဏ်း ၇ ၌ ဘော်ပြထားသည့်အတိုင်း) နာသိကအဖြစ်သို့ ပြောင်းလဲတတ်၏။ သရနှောင်းရာ၌မူကား မ–ဟူ၍သော်၎င်း။ ဒ–ဟူ၍သော်၎င်း ဖြစ်လာ၏။ ဥဒါဟရဏ်၊ သော ကိမကာသိ, သူဘာကိုပြုသလဲ။ တေဒဟောသိ, ဤအကြံသည်ဖြစ်၏။ ကိန္တေ ကတံ, သင်သည်ဘာကို ပြုအပ်သနည်း။

## ကိံ–ကိုသမ္ပဒါန၊ကရဏကာရကတို့နှင့်သုံးခြင်း။

ကိံ–ကိုသမ္ပဒါနကာရကနှင့်၎င်း၊ ကရဏကာရကနှင့်၎င်း ဘက်တွဲသုံးစွဲသည်ရှိသော်၊ 'အဘယ်ကျေးဇူး'၊ 'အဘယ် အကျိုး'ဟူ၍အဓိပ္ပါယ်ပြန်ရသည်။ ဥဒါဟရဏ်။

ကိန္တေ ပုတ္တေန,သားဖြင့်သင့်အား အဘယ်ကျေးဇူးရှိသနည်း။

ကိမ္မေ အာဂစ္ဆန္တေန, လာသဖြင့် ကျွန်ုပ်အား အဘယ် ကျေးဇူးရှိအံ့နည်း။

ဤသို့သော ဝါကျများ၌ ကိံ–အစား အတ္ထော ကို ထည့်သွင်းလျှင်။ 'အကျိုးရှိ၏' 'အလိုရှိ၏'–ဟူသော အဓိပ္ပါယ်ရသည်။ ဥဒါဟရဏ်။

အတ္ထော မေ ကပိနာ၊ မျောက်ဖြင့် ကျွန်ုပ်အား အကျိုး ရှိ၏။ မျောက်ဖြင့် ကျွန်ုပ်သည် အလိုရှိ၏။ (ကျွန်ုပ် မျောက်ကို အလို ရှိ၏။)

အတ္တော တေ ရဇ္ဇေန, အုပ်စိုးသဖြင့် သင့်အား အကျိုးရှိသည်။ တားမြစ်ခြင်း–ဟူသော အနက်ကိုလိုမူ၊ န.တ္ထိ(န+အတ္ထိ)ကို ထည့်ရသည်။ ဥဒါဟရဏ်။

အတ္တော မေ ကပိနာ န.တ္ထိ, ကျွန်ုပ်သည် မျောက်ကို အလိုမရှိ။

ကိံ–ကိုသမာသ်ပြုလုပ်ရာ၌လည်းသုံးနိုင်သည်။ ဥဒါဟရဏ်။

ကိကာရဏာ(အပါဒါန),အဘယ်ကြောင့်လဲ။

ကိမ္ပုရိသော, ကိန္နရာ။ကိကာရ,ကျွန်။

## ယ–ကို တ–နှင့် တွဲဘက်၍သုံးခြင်း။

(ပါဠိသဒ္ဒါကျမ်းကြီးတို့၌။ ယ ကို တစုံတခုဖြင့်မမှတ်ရသေးသောအရာ၌သုံးရခြင်းကြောင့်။ အနိယတ=အနိယတ်။ တ–ကိုတစုံတခုဖြင့် မှတ်ပြီးသော အရာ၌သုံးရခြင်းကြောင့်။ နိယတ=နိယတ် ဟု ခေါ်သည်။)

(က) ယ–ကို သော၊သာ၊တံ ဟူသော ပုဒ်တို့နှင့်တွဲ၍များစွာအသုံးပြု၏။ဥဒါဟရဏ်၊ယော ပုရိသော မံ ပဿတိ သော မရိ, အကြင်ယောကျ်ားသည် ငါ့ကို မြင်၏။ ထို (ယောကျ်ား) သည်သေလေပြီ။ (ငါ့ကိုမြင်သောလူသည် သေပြီ။) အကြင်ယောကျ်ားသည် ဟု ဆိုရာ၌ကား။ ထိုမြင်သောယောကျ်ားသည်ဟု မြင်ခြင်းကြိယာဖြင့် မှတ်သားပြီးဖြစ်သည်။

ယသ္မိံ ဃရသ္မိံ သော နိပဇ္ဇဿတိ တသ္မိံ ဃရသ္မိံ အဟံ ဝသိဿာမိ, အကြင်အိမ်၌ သူလျောင်းလတ့ံ၊ ထိုအိမ်၌ ကျွန်ုပ်နေအံ့။ (သူလျောင်းမည့်အိမ်၌ ကျွန်ုပ်နေအံ့။)

ယာ ဣတ္ထီ တံ ပုရိသံ ပက္ကောသတိ သာ အတိဝိယ ဗာလာ, အကြင် မိန်းမသည် ထိုယောကျ်ားကို ခေါ်၏၊ ထိုမိန်းမသည်

အလွန်မိုက်စွ။ (ထိုယောက်ျားကို ခေါ်သောမိန်းမသည် အလွန်မိုက်စွ။)

(ခ) ယံ–ဟူသော ကမ္မ၊ ယေန–ဟူသော ကရဏ၊ ယသ္မာ–ဟူသော အပါဒါန ကာရကတို့သည် 'အကြင် အကြောင်းကြောင့်'၊ 'သောကြောင့်'၊ 'သဖြင့်' ဟူသော အနက်များ၌ ဖြစ်ကုန်၏။ဥဒါဟရဏ်။

တုမှေ တံ န ဝဓေယျာထ ယံ သော ပဏ္ဍိတော ဟောတိ, အကြင်သူသည် လိမ္မာသောကြောင့်၊ထိုသူကို သင်တို့ မသတ်ရာ။ (သူလိမ္မာသောကြောင့်၊ သင်တို့သူကိုမသတ်ရာ၊ မသတ်သင့်။)

ယသ္မာ သော မံ ပဟရိ တသ္မာ န တေန သဟ ဂစ္ဆာမိ, အကြင်အကြောင်းကြောင့် သူသည် ကျွန်ုပ်ကို ရိုက်ပုတ်၏၊သို့ဖြစ်သောကြောင့် သူနှင့်အတူမသွားပါ။

တံ ကာရဏံ သုဏောဟိ ယေန ကာရဏေန သော မရိ, အကြင်အကြောင်းကြောင့် သူသေ၏။ ထိုအကြောင်းကို နာလော့။

(ဂ) ယေန .... တေန – ဟူသော ပုဒ်နှစ်ပုဒ်တို့သည် 'အကြင်အရပ်'၌ ... 'ထိုအရပ် သို့' ဟူ၍ အဓိပ္ပါယ်ရ၏။ ဥဒါဟရဏ်။

ယေန ဘဂဝါ တေ(န) ဥပသင်္ကမိ, အကြင်အရပ်၌ မြတ်စွာဘုရားရှိတော်မူ၏။ထိုအရပ်သို့ချဉ်းကပ်၏။(မြတ်စွာဘုရားရှိတော်မူရာအရပ်သို့ ချဉ်းကပ်၏။)

ယေန တေ ဝသန္တိ တေန ဂစ္ဆာမ, အကြင်အရပ်၌ သူတို့နေကြ၏။ ထိုအရပ်သို့ သွားကြစို့။

## အနိယမ နာမ်စားများ။(သဗ္ဗနာမ်။)

ကော၊ကာ၊ကိံ–စသော ပုဒ်တို့နောက်တွင် စိ–ဟူသော ပစ္စည်းကို ကပ်လျှင်၊ ကောစိ, အဘယ်သူမဆို။ ကာစိ,အဘယ်သူမဆို။ ကိဉ္စိ, အဘယ် အရာမဆို၊ ဘယ်သင်းမဆို–ဟူသော အနိယမ အနက်တို့ကိုရ၏။ (တရံတခါ စိ–အစား၊ ကတ္တာ ဗဟုဝုစ်အရာ၌ စန၊ ဩကာသအရာ၌ စနံ–ဟူသော ပုဒ်တို့ ကိုသုံး၏။) ဥဒါဟရဏ်၊ ကောစိ ပုရိသော၊ ဘယ်သူမဆို။

ကောစိ–ပုလ္လိင်။

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| ကတ္တာ | –ကောစိ။ | ကေစိ။ |
| သာမီ၊သမ္ပဒါန | –ကဿစိ။ | ကေသဉ္စိ။ |
| ကမ္မ | –ကဉ္စိ၊ကိဉ္စိ။ | ကေစိ။ |
| ကရဏ | –ကေနစိ။ | ကေဟိစိ။ |
| အပါဒါန | –ကသ္မာစိ။ | |
| ဩကာသ | –ကသ္မိဉ္စိ၊ကိသ္မိဉ္စိ။ | ကေသုစိ။ |

ကာစိ–ဣတ္ထိလိင်။

| | | |
|---|---|---|
| ကတ္တာ | –ကာစိ။ | ကာစိ၊ကာယောစိ။ |
| သာမီ၊သမ္ပဒါန | –ကာယစိ၊ကဿာစိ။ | ကာသဉ္စိ။ |
| ကမ္မ | –ကဉ္စိ။ | ကာစိ၊ကာယောစိ။ |
| ကရဏ၊အပါဒါန | –ကာယစိ။ | ကာဟိစိ။ |
| ဩကာသ | –ကာယစိ၊ကာယဉ္စိ၊ ကဿဉ္စိ။ | ကာသုစိ။ |

မှတ်ချက်။ ။စ၊ နှောင်းသည် ရှိသော်၊ နိဂ္ဂဟိတ်သည် ဉ ဖြစ်၏။

နပုန်းလိင်သည် ပုလ္လိင်နှင့်တူ၏။ အထူးကား ကတ္တာနှင့် ကမ္မ ဧကဝုစ်၌ ကိဉ္စိ–ဟူ၍၎င်း။ ဗဟုဝုစ်၌ ကာနိစိ–ဟူ၍၎င်း ဖြစ်၏။

ဘာသာပြန်။ ။(၁) မိန်းကလေးသည် ဆေးကို အလိုရှိ၏။ (၂) ကျွန်ုပ်၏သားနှင့် အတူလာသဖြင့် သင်တို့အား အ

ဘယ် အကျိုးရှိသနည်း။ (၃) အကြင်အရပ်၌ သမင်အိပ်၏။ ထိုအရပ်သို့ ခြသေ့်သွား၏။ (၄) အဘယ်ကြောင့် သင်တို့သည် မကောင်းမှုကို ပြုကြသနည်း။ (၅) မကောင်းမှုကို ကျွန်ုပ်တို့ ပြုခဲ့ကြပြီ။(၆)သူ၏အိမ်သို့သွားသောသူသည် အလွန်မိုက်၏။ (၇) အကြင်မိန်းကလေးကို သူနှင့်အတူတကွသင်မြင်၏။ ထို မိန်းကလေးသည် ကျွန်ုပ်၏နှမဖြစ်၏။(၈)အကြင်လူတို့သည် ကျွန်ုပ်ကိုခေါ်ကြ၏။ထိုလူတို့သည်သူ၏အစ်ကိုများဖြစ်ကြ၏။ (၉) အကြင်အကြောင်းကြောင့်သူသည် ရှုး၏။ (ဥမ္မတ္တက)။ ထိုအကြောင်းကိုသင်တို့သိကြသလော။ (၁၀) အကြင်အရပ်၌ (ပ-ပဒေသ) သင်တို့သည် သူ့ကိုမြင်အံ့။ ထိုအရပ်မှာ သူ့ကို ဦးခေါင်းပေါ်၌ (ပ-မတ္ထက) ရိုက်ပုတ်ကြလော့။

## အခဏ်း ၁၇။
## ပဌမပုဗ္ဗကာလကြိယာ။

တွာ စသောပစ္စည်းများသည်ကား ၍၊ ပြီး၍ ဟူသော အနက်ရှိသော ပစ္စည်းများတည်း။ ဥဒါဟရဏ်။ ကညာ ဩဒနံ ပစိတွာ ဘုဥ္စိတွာ နိပဇ္ဇိ, မိန်းကလေးသည် ထမင်းကို ချက်၍ စား၍ လျောင်းလေ၏။ ပဌမပုဗ္ဗကာလကြိယာ၏ လက္ခဏာကား-တွာ၊တွာန၊တုန တို့ဖြစ်သည်။ ၎င်းတို့ကို အတိတ်ကိတ် ဖြစ်သော တ-ကဲ့သို့သုံးမျိုးဆက်သွယ်နိုင်သည်။

(က)သရဆုံးဓာတ်၌တိုက်ရိုက်ဆက်သွယ်ခြင်း ဥဒါဟရဏ်။ √ သု-သုတွာ။

(ခ) ဗျည်းဆုံးဓာတ်၌ ဣ-သရဖြင့်ဆက်သွယ်ခြင်း။ဥဒါဟရဏ်။ √ ပစ်-ပစိတွာ။

(ဂ) ဓာတ်ဆုံးဗျည်းနှင့်တွေ့သော် ပြောင်းလဲခြင်း။ ဥဒါဟရဏ်။ √ဂမ်-ဂန္တွာ။ √ဘုဇ်-ဘုတွာ။ √ကရ်-ကတွာ (ရ်-ကြေသည်။)

တခါတရံဓာတ်၏သရသည်ဂုဏမြောက်၏။သို့မဟုတ် ဝုဒ္ဓိရောက်၏။ဥဒါဟရဏ်၊ √နီ–နေတွာ။

တွာန၊ တုန–ဟူသောပစ္စည်းတို့ကိုကား အများအားဖြင့်လက်ာ၊ သို့မဟုတ် ဂါထာ၌သာသုံးသည်။

ယ–ဟူသည်လည်းလက္ခဏာတခုဖြစ်၏။၎င်းကို ရှေးဆက်ပုဒ်ပါသော ဓာတ်များ၌အသုံးများသည်။ ဥဒါဟရဏ်၊ အာ √ဒါ+ယ=အာဒါယ။ အာ √ ဂမ်+ယ=အာဂမ္မ။

ဣ–သရဖြင့်လည်း ဆက်သွယ်နိုင်၏။ ဥဒါဟရဏ်၊ √ ပစ်–ပစိယ။ တည်ပုဒ်သို့လည်း ဆက်သွယ်နိုင်၏။ ဥဒါဟရဏ်၊ √ဘုဇ်–ဘုဉ္ဇိယ။

## ဒုတိယပုဗ္ဗကာလကြိယာ။

ငှာရန်–အနက်ရှိသော ပစ္စည်းသည် ဒုတိယပုဗ္ဗကာလကြိယာ မည်၏။ ၎င်းကား တုံ–ဖြစ်၏။တ–ဟူသောအတိတ်ကိတ်ပစ္စည်း၊တွာ၊တုံ–ဟူသော ပဌမနှင့်ဒုတိယပုဗ္ဗကြိယာပစ္စည်းတို့သည် တ–အက္ခရာနှင့်စသည်ဖြစ်ရကား ဓာတ်သို့ ဆက်သွယ်ရာ၌ သုံးခုစလုံးအတူတူပင်ဖြစ်၏။ ထို့ကြောင့် အခဏ်း ၁၅–၌ ဘော်ပြအပ်သော ပြောင်းလဲခြင်းများသည်သုံးခုစလုံး၌ အသုံးကျ၏။

တုံ–သုံးမျိုးဆက်သွယ်ရ၏။

(က) တိုက်ရိုက်။ ဥဒါဟရဏ်။ √ ဒါ–ဒါတုံ။

(ခ) ဣ–သရဖြင့်။ဥဒါဟရဏ်။ √ ပစ်–ပစိတုံ။

(ဂ) ပြောင်းလဲခြင်းဖြင့်။ ဥဒါဟရဏ်၊ √ လဘ်–လဒ္ဓုံ။

ဓာတ်၏ အဆုံးဗျည်း ကြေသည်လည်းရှိ၏။ ဥဒါဟရဏ်။ √ကရ်–ကာတုံ (ဗျည်းကြေသည့်အတွက် ဓာတ်၏ သရကို ဒီဃပြုရသည်။)

ဣ၊ဤ၊ဥ၊ဦ တို့သည် ဧ၊ ဩ ဖြစ်လာ၏။ဥဒါဒရဏ်၊√ဇိ–ဇေတုံ၊ဇယိတုံ။ √သု–သောတုံ၊သဝိတုံ။

လက်ာ၌ တဝေ–ကိုလည်းအသုံးပြု၏။ဥဒါဟရဏ်၊ √ဟာ–ဟာတဝေ။

ဘာသာပြန်။ ။(၁)အဟံ ဩဒနံ ပစိတွာ ခါဒိတုံ အာရဘာမိ။ (√ ရဘ်,အစပြုခြင်း)။ (၂) ဝါဏိဇော ဓနံ လဒ္ဓုံ ဝိစရတိ။ (၃) သော ပစ္စရိယံ နိပဇ္ဇိတွာ မရိ။ (၄) မမ ပုတ္တော ဘိက္ခုံ ပဿိတွာ ဓမ္မံ သုဏာတိ။ (၅) ကညာ အာစရိယံ (ပ–ဆရာ) ပုစ္ဆိတွာ အာဂစ္ဆတိ။ (၆) လုဒ္ဒေါ မိဂံ ဝဓိတုံ အဋဝိံ ပဝိသတိ (√ဝိသ်, ဝင်ခြင်း)။ (၇) မဟာရာဇာ ဝေရိံ ဇေတုံ သင်္ဂါမေ ယုဇ္ဈတိ (√ယုဓ်, စစ်တိုက်ခြင်း)။ (၈) တေ ပုရိသာ ဘတ္တံ ခါဒိတုံ နိသီဒိံသု။ (၉) တေ မမ ပုတ္တဿ ဇီဝိတံ ရက္ခေယျုံ။ (၁၀)သတ္တာရံ ပဉှံ ပုစ္ဆိတုံ ဂစ္ဆ။

(၁) ကုန်သည်တို့သည် လှည်းကိုရရန် လှည့်လည်သွားကြ၏။ (၂) ထမင်းစားသော အမတ်ကို ကြည့်ရန်ထိုင်ပါ။ (၃) သူသည် ထိုင်ပြီးလျှင် တစုံတယောက်အဘို့ထမင်းချက်ပြီ။(၄) ရှင်ဘုရင်နှင့် မိဘုရားကို သတ်ရန် မြို့သို့သူလာပြီ။ (၅)မြေကြီးပေါ်မှာ ထိုင်နေပြီးသော လူတို့ကို မြင်ပြီးလျှင်၊ သူတို့ထွက်ခွာသွားကြလေ၏။ (၆) ကျွန်ုပ်သည် သူတို့ကို မြင်သောအခါ၊ သူတို့သည် ကစားနေကြလေသည်။(၇) ရှင်ဘုရင်၏ ဆင်သည် ရောက်လာပြီ။ (၈) ကျွန်ုပ်၏ လှပသော ငှက်ကို လာ၍ကြည့်ပါ။ (၉) ထိုမိန်းကလေးတို့နှင့် ဤယောက်ျားကလေးတို့သည် အတူ တကွ ကျွန်ုပ်၏ ဥယျာဉ်၌ ကစားကြလတ့်။ (၁၀) သင်တို့၏ အစာအားဖြင့် ကျွန်ုပ်အားအကျိုးမရှိ။

## အခန်း ၁၈။

## ကမ္မဘာဝ။*

ဤသည်ကား ကတ္တား၏ ကြောင့်ကြ အားထုတ်ခြင်း အပြု အမူ အခြေအနေဟုဆိုအပ်သော ကြိယာဖြင့် ရောက်အပ်သည့် သဘောကို ဘော်ပြသည်။ ၎င်းကို အပ်–ဟူသော ပစ္စည်းစကားဖြင့် မြန်မာပြန်ရာ၏။

ဓာတ်သို့ ယ–ပစ္စည်းကို နည်းသုံးမျိုးဖြင့် ဆက်သွယ်လျှင် ကမ္မဘာဝ တည်ပုဒ်ဖြစ်၏။

(က) တိုက်ရိုက်။ ပြယုဂ်၊ √နီ–နီယ။ √ဘူ–ဘူယ။

ဓာတ်အဆုံး ā သည် ī သို့ ပြောင်းလဲ၏။ ပြယုဂ်၊ √ဒါ–ဒီယ။ √ပါ–ယီယ။

(ခ) ဗျည်းဆုံးဓာတ်သို့ ိအားဖြင့် ယ–ကို ဆက်သွယ်ရာ၊ ိသည် ီသို့ ပြောင်းလဲ၏။ ပြယုဂ်၊ √သရ်–သရီယ။ √ဟာသ်–ဟာသီယ။

(ဂ) အခန်း ၈ ၌ ပေးထားသည့်အတိုင်း ပြောင်းလဲခြင်းများကိုလည်း ရ၏။ ပြယုဂ်၊ √လဘ်–လဗ္ဘ။ √ဟန်–ဟည။

အချို့သော ကမ္မဘာဝ ကြိယာများသည် ထူးခြားသော တည်ပုဒ်များမှဖြစ်၏။ ပြယုဂ်၊ √ကြသ်–ကြစ္ဆ(တည်ပုဒ်)–ကြစ္ဆီယ၊ (ကမ္မဘာဝတည်ပုဒ်)။ √ဂမ်–ဂစ္ဆ–ဂစ္ဆီယ။

အထက်ဘော်ပြအပ်သောနည်းအတိုင်း ရသော တည်ပုဒ်သို့ လိုရာ ကြိယာဝိဘတ်များကိုဆက်သွယ်ရသည်။ ပြယုဂ်၊ √ဇိ–ဇီယ (ကမ္မဘာဝတည်ပုဒ်)–ဇီယေယျာမိ, ကျွန်ုပ်အောင်အပ်ရာ၏။

* ပါဠိသဒ္ဒါကျမ်းကြီးတို့၌ ကမ္မဝါစက ကြိယာဟုခေါ်၏။

## မူလသင်္ချာများ။

ဧက, တစ်–ကို ပုလ္လိင်၌ သော–ကဲ့သို့။ ဣတ္ထိလိင်၌ အများအားဖြင့် သာ–ကဲ့သို့။ နပုန်းလိင်၌ ဃရံ–ကဲ့သို့ ဝိဘတ်သွယ်ရသည်။

### ဧကာ,တစ်–ဣတ္ထိလိင်။

| | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|
| ကတ္တာ | –ဧကာ။ | ဧကာ၊ဧကာယော။ |
| သာမိ၊သမ္ပဒါန | –ဧကိဿာ၊ဧကာယ။ | ဧကာသံ၊ ဧကာသာနံ။ |
| ကမ္မ | –ဧကံ။ | ဧကာ၊ ဧကာယော။ |
| ကရဏ၊အပါဒါန | –ဧကာယ။ | ဧကာဟိ။ |
| ဩကာသ | –ဧကိဿံ၊ဧကာယံ။ | ဧကာသု။ |

တခု ဟူသော အရေ အတွက်ကို ဟောသည့် ဧက သဒ္ဒါ ဗဟုဝုစ်ရုပ်များကို မရကောင်း။ ဗဟုဝုစ်ရုပ်များမှာ 'အချို့'ဟူသော အဓိပ္ပါယ်ကို ပြန်ဆိုရ၏။ ပြယုဂ်၊ ဧကေ ပုရိသာ, အချို့သော လူများ။

### ဒွိ, တိ, စတု, ပဉ္စ တို့ ဝိဘတ်သွယ်ပုံ။

| တည်ပုဒ် | ကတ္တာ၊ကမ္မ။ | သာမိ၊ သမ္ပဒါန။ | ကရဏ အပါဒါန။ | ဩကာသ |
|---|---|---|---|---|
| ဒွိ, နှစ်။ | ဒွေ။ | ဒွိန္နံ။ | ဒွီဟိ။ | ဒွီသု။ |
| တိ, သုံး။ | ပ–တယော။<br>ဣ–တိဿော။<br>န–တီဏိ။ | တိဏ္ဏံ။<br>တိဿန္နံ။<br>တိဏ္ဏံ။ | တီဟိ။ | တီသု။ |
| စတု,လေး။ | ပ–စတ္တာရော။<br>ဣ–စတ္တဿော။<br>န–စတ္တာရိ။ | စတုဏ္ဏံ။<br>စတဿန္နံ။<br>စတုဏ္ဏံ။ | စတူဟိ။ | စတူသု။ |
| ပဉ္စ, ငါး။ | ပဉ္စ။ | ပဉ္စန္နံ။ | ပဉ္စဟိ။ | ပဉ္စသု။ |

အောက်ပါသင်္ချာများကိုလည်း ပဉ္စ–ကဲ့သို့ ဝိဘတ်သွယ် အပ်၏။

ဆ,ခြောက်။ သတ္တ,ခုနစ်။အဋ္ဌ, ရှစ်။ နဝ,ကိုး။ဒသ,တဆယ်။ ဧကာဒသ, တဆယ့်တစ်။ ဒွါဒသ, တဆယ့်နှစ်။ တေရသ,တဆယ့်သုံး။ စတုဒ္ဒသ,တဆယ့်လေး။ ပဉ္စဒသ,တဆယ့်ငါး။သောဠသ,တဆယ့်ခြောက်။ သတ္တဒသ, တဆယ့်ခုနစ်။အဋ္ဌာဒသ,တဆယ့်ရှစ်။ ဧကူနဝီသတိ,တဆယ့်ကိုး။(ဧက+ဦန+ဝီသတိ)။ ဝီသတိ,နှစ်ဆယ်က ကိုးဆယ့်ကိုးထိ သင်္ချာများကို ိဆုံးသော ဣတ္ထိလိင်နာမ်များကဲ့သို့(ဇာတိ)ဝိဘတ်သွယ်ရသည်။ ပြယုဂ်၊ အသီတိယံ ပုရိသေသု,လူရှစ်ဆယ်တို့အနက်။

သတ,တရာ။သဟဿ,တထောင်တို့ကိုဃရံ–ကဲ့သို့ ဝိဘတ် သွယ်ရသည်။ ၎င်းတို့ကို အများအားဖြင့် သာမိကာရကနှင့် အသုံးပြုရသည်။ ပြယုဂ်၊ ပုရိသာနံ သဟဿံ, လူတထောင်။

## အနုက္ကမသင်္ချာများ။

| ပုလ္လိင်။ | ဣတ္ထိလိင်။ | နပုန်းလိင်။ |
|---|---|---|
| (ပုရိသ–ကဲ့သို့ဝိဘတ် သွယ်ရသည်။) | (အာ၊ဤဆုံးသောဣတ္ထိ လိင်နာမ်များကဲ့သို့။) | (ဃရံ–ကဲ့သို့) |
| ပဌမော,အစရှေးဦး။ | ပဌမာ။ | ပဌမံ။ |
| ဒုတိယော,နှစ်ခုမြောက်။ | ဒုတိယာ။ | ဒုတိယံ။ |
| တတိယော,သုံးခုမြောက်။ | တတိယာ။ | တတိယံ။ |
| စတုတ္ထော,လေးခုမြောက်။ | စတုတ္ထီ။ | စတုတ္ထံ။ |
| ပဉ္စမော,ငါးခုမြောက်။ | ပဉ္စမီ။ | ပဉ္စမံ။ |
| ဆဋ္ဌော၊ဆဋ္ဌမော,*ခြောက်ခုမြောက်။ | ဆဋ္ဌီ၊ဆဋ္ဌမီ။ | ဆဋ္ဌံ၊ဆဋ္ဌမံ။ |
| သတ္တမော,ခုနစ်ခုမြောက်။ | သတ္တမီ။ | သတ္တမံ။ |
| အဋ္ဌမော,ရှစ်ခုမြောက်။ | အဋ္ဌမီ။ | အဋ္ဌမံ။ |
| နဝမော,ကိုးခုမြောက်။ | နဝမီ။ | နဝမံ။ |
| ဒသမော,ဆယ်ခုမြောက်။ | ဒသမီ။ | ဒသမံ။ |
| အစရှိ | အစရှိ။ | အစရှိ။ |

* ဤဆဋ္ဌ နောက်မှာ– မ–ပစ္စည်းဆက်သောပုဒ်စုကို ဂါထာအရာ၌သာသုံးသည်။

ဘာသာပြန်။ ။(၁) တေ တယော ပုတ္တာ နဂရသ္မာ ဂစ္ဆန္တိ။(၂) ဧသော ရာဇာ တီဏိ သကဋ္ဌာနိ ဝိက္ကိဏာတိ (ရောင်းသည်)။ (၃) ဒွေ ပုရိသာစ စတသော ကူတ္တိယော ဧကသ္မိံ ဃရေ နိပဇ္ဇန္တိ။ (၄) တေန အမစ္စေန ကုသလံ ကမ္မံ ကရီယတိ။ (၅) စတ္တာရော ပုရိသာ စ စတသော ကညာယော ဧကိဿံ ရတ္တိယံ ဂစ္ဆန္တိ။ (၆) သဗ္ဗေ မနုဿာ သောတ္ထိံ (နှ–ချမ်းသာခြင်း) လဘန္တု။ (၇) အညတရော ဒေဝေါ တဿာ ကညာယ မင်္ဂလံ ဒဒါတိ။ (၈) ကူတရော အဋ္ဌဝိယံ အန္တရဓာယတိ။ (√ဓာ, ကွယ်ပျောက်ခြင်း)။ (၉) ဧတာ တိဿော ကူတ္တိယော မဟန္တံ ယသံ(ပ–အခြံအရံ) ပါပုဏန္တိ။ (၁၀) ဧသော သေနာပတိ(ပ–စစ်သူကြီး) မဟန္တိယာ သေနာယ စတ္တာရိ ရဋ္ဌာနိ ပရာဇိတော။

(၁) သမင် နှစ်ကောင်တို့ကို သတ်နေသော လူလေး ယောက်တို့ကို ကျွန်ုပ်မြင်ပြီ။ (၂) ထိုလူနှစ်ယောက်နောက်သို့ လိုက်လော့။ (၃) ဖောင်ပေါ်မှာ လူငါးယောက်တို့ ထိုင်နေကြပြီ။ (၄) လူနှစ်ယောက်တို့သည် မိန်းမလေးငါးယောက်တို့ကို သတ်အပ်ကုန်၏။ (၅) လူနှစ်ယောက်တို့သည် သမင်ကို ဘမ်း ယူအပ်၏။ (၆) စစ်သူကြီးကို အားလုံး ရှိခိုးကြလော့။ (၇) ထိုအရပ်မှာ သင်ရှေးဦးစွာမြင်အပ်သောလူသည် ညဥ့်၌ ကျွန်ုပ်ထံ သို့ လာပြီ။ (၈)ကျွန်ုပ်၏ မယားသည် နှစ်ခုမြောက် လှည်းကို ရောင်းအပ်ပြီ။ (၉) ကျွန်ုပ်သည် မိန်းကလေး နှစ်ယောက်ကို ရိုက် အပ်ပြီ။ (၁၀) တဆယ်မြောက်နေရာ၌ ထိုင်ပါ။

## အခန်း ၁၉။

## ကာရိုက်ကြိယာ။

စေခိုင်းတိုက်တွန်းခြင်း အနက်ပါဝင်သော ကြိယာသည် ကာရိုက်ကြိယာမည်၏။ မြန်မာဘာသာ၌ 'စေ'ဟူသော စကားကို ထည့်၍ သုံးရသည်။

၎င်း၏လက္ခဏာများကား ဏေ၊ ဏယ၊ ဏာပေ၊ ဏာပယ–တို့ ဖြစ်သည်။ ၎င်းတို့ကို ဓာတ်နှင့်ဆက်သွယ်သော် ၎င်းတို့ရှေ့က ဏ ရသည် ရှည်၍လာ၏။ ပြယုဂ်၊ √ပစ်–ပါစေတိ၊ ပါစယတိ၊ ပါစာပေတိ၊ သို့မဟုတ်၊ ပါစာပယတိ။ အမှန်လက္ခဏာများကား ဏေ၊ ဏာပေ တို့တည်း။ သို့သော် ဏေ=ဏယ ဖြစ်သောကြောင့် ဏာပေ=ဏာပယကိုလည်း ရသည်။

ဧ–ဆုံးသော တည်ပုဒ်တို့ကို ကာရိုက် ဖြစ်စေ လိုသော်၊ ဓာတ်မှာ ဏာပေ–ထည့်ရသည်။ ပြယုဂ်၊ ကထေ(√ကထ်)–ကထာပေတိ၊ ကထာပယတိ။

ဣ၊ဤ၊ ဥ၊ ဦ ဆုံးသော ဓာတ်တို့၌ကား ကာရိုက်ကိုတည်ပုဒ် မှ ဖြစ်စေကြ၏။ ပြယုဂ်၊ √သု–သာဝေတိ။ √သီ–သာယေတိ။

နကိုဂ်က ကမ္မတခုရှိသော ကြိယာကို ကာရိုက် ကြိယာပြုလုပ်လျှင် ကမ္မနှစ်ခုတို့ကို သုံးနိုင်၏။ပြယုဂ်၊ အဟံ ကညံ ဘတ္တံ ပါစေဿာမိ။ ။ကျွန်ုပ်သည် မိန်းကလေးကို ထမင်းချက်စေမည်။

√ဒါ, ပေးခြင်း–ဟူသော ဓာတ်၏ ကာရိုက်ကား ဒါပေတိ–ဖြစ်သည်။ ဤ၌ ဓာတ်နောက်က ပေ–ကို တိုက်ရိုက်ဆက်သည်။

√ဌာ, ရပ်ခြင်း–ဟူသော ဓာတ်၏ ကာရိုက်ကား ဌာပေတိ–ဖြစ်သည်။

## နာမဝိသေသနများကို နှိုင်းယှဉ်ခြင်း။

နာမဝိသေသန အနိမ့်စားနောက်မှာ၊ တရ–ပစ္စည်းထည့်လျှင် အလတ်စား၊ တမ–ပစ္စည်းထည့်လျှင် အမြတ်စားဖြစ်သည်။ ပြယုဂ်၊ ပါပ–ပါပတရ–ပါပတမ,ဆိုးသော၊ သာ၍ဆိုးသော၊အဆိုးဆုံး။

အလတ်စားအဘို့ ဣသိက၊ဣယ၊ဣ ျတို့သည်၎င်း၊ အမြတ်စားအဘို့၊ ဣဋ္ဌ သည်၎င်း ရှိကြသေး၏။ ဤပစ္စည်းတို့ကိုထည့်သောအခါ၊အဆုံးသရကြေတတ်၏။

ပြယုဂ်၊ ပါပ–ပါပိသိက၊ပါပိယ၊ပါပိယျ–ပါပိဋ္ဌ။

ဤအလတ်စား၊အမြတ်စား နာမဝိသေသနတို့ကို ပုရိသ၊ ကညာ၊ ဃရံ–တို့နည်းတူ ဝိဘတ်သွယ်ရသည်။

ပိုင်ဆိုင်ခြင်း အနက်ရှိသော ဝ၊ မာ၊ ဝီ–တည်းဟူသော ပစ္စည်းတို့နှင့် ဆုံးသော နာမဝိသေသနတို့ နောက်မှာ ယှဉ်သော်၊ ၎င်း ဝ၊ မာ၊ ဝီ ပစ္စည်းတို့ ကြေကြ၏။ ပြယုဂ်။

ဂုဏဝါ, ဂုဏ်ရှိသော–ဂုဏိယ–ဂုဏိဋ္ဌ။<br>
သတိမာ, သတိရှိသော–သတိယျ–သတိဋ္ဌ။<br>
မေဓာဝီ, ပညာရှိသော–မေဓိယ–မေဓိဋ္ဌ။

## ပိုင်ဆိုင်ခြင်းအနက်ရှိသောဝိသေသနများ။

အ–ဆုံးသည့် တည်ပုဒ်မှာ ဝါ–ပစ္စည်းထည့်။ ဣ၊ –ု ဆုံးတည်ပုဒ်မှာ မာ–ပစ္စည်းထည့်လျှင်၊ ဤနာမဝိသေသနများ ဖြစ်ကြ၏။ ပြယုဂ်၊ ဓန–ဓနဝါ,ဥစ္စာပစ္စည်းရှိသော။ စက္ခု–စက္ခုမာ,မျက်စိရှိသော။ ဤနာမဝိသေသနတို့၏ တည်ပုဒ်တို့သည် ဝတ်၊ဝန္တ်၊မတ်၊မန္တ် တို့ဖြစ်ကြ၍၊ ၎င်းတို့ကို ဝိဘတ်သွယ်နည်းနှင့် ဣတ္ထိလိင်ပြုလုပ်နည်းတို့သည် အခဏ်း ၁၃၌ ဘော်ပြအပ်သော ပစ္စုပ္ပန်ကိတ်နာမ် ပရဿပဒနှင့်တူ၏။ ပြယုဂ်။

မေဓာဝီ, ပညာရှိသော။

ဓနဝါ ပုရိသော,ဥစ္စာပစ္စည်းရှိသောလူ။
ဓနဝတီ ကညာ၊ ဥစ္စာပစ္စည်းရှိသောမိန်းကလေး။
ဓနဝန္တသဒ္ဒ(ဝါ၊ဓနဝတော) ပုရိသသဒ္ဒ(သာဓိ၊ပုလ္လိင်)။
ဓနဝတိယံ ကညာယံ(ဩကာသ၊ ဣတ္ထိလိင်။

ဝီ–ဟူသော ပစ္စည်းသည် ဝါ၊မာ ကဲ့သို့ ပိုင်ဆိုင်ခြင်းအနက်ရှိ၍ နာမ်ပုဒ်မှာထည့်ရသည်။ အာဝီ–ဟူသော ပစ္စည်းကိုကား ဓာတ်မှာထည့်ရသည်။ပြယုဂ်။

မေဓာဝီ, ပညာရှိသော။
√ပဿ်–ပဿာဝီ,ကြည့်မြင်ခြင်းရှိသော။

ဤပုဒ်တို့ကို ပုလ္လိင်၊ ဣတ္ထိလိင်၌ ဳဆုံးနာမ်များကဲ့သို့ငင်း၊ နပုန်းလိင်၌ ိဆုံး နာမ်များကဲ့သို့ငင်း၊ ဝိဘတ်သွယ်ရသည်။

## ထူးသောနှိုင်းယှဉ်ခြင်းများ။

| အနိမ့်စား | အလတ်စား | အမြတ်စား |
|---|---|---|
| အပ္ပ,အနည်းငယ်ဖြစ်သော။<br>ယုဝ,ငယ်ရွယ်သော။ | ကဏိယ။ | ကနိဋ္ဌ။ |
| ဂရု,လေးလန်သော။ | ဂရိယ။ | ဂရိဋ္ဌ။ |
| ဗာဠ္ဍ,ပြင်းထန်သော။ | သာဓိယ။ | သာဓိဋ္ဌ။ |
| ဝုဍ္ဎ,အရွယ်ကြီးသော။ | ဇေယျ။ | ဇေဋ္ဌ။ |
| သေဋ္ဌ၊ ပသတ္ထ,ချီးမွမ်းအပ်သော။ | သေယျ။ | သေဋ္ဌ။ |

မှတ်ချက်။ ။နှိုင်းယှဉ်ရာ၌ အများအားဖြင့် အပါဒါနကာရကကို အသုံးပြု၏။ ပြယုဂ်၊ သော မယာ ပါပတရော,သူသည် ကျွန်ုပ်ထက်သာ၍ ဆိုး၏။

## အဇ္ဇတနီသုံးမျိုး။

(၁) ဓာတ်မှာ အဇ္ဇတနီဝိဘတ်ကို ထည့်ခြင်း။ ပြယုဂ်၊ √အသ်,ဖြစ်ခြင်း– (ဧကဝုစ်) အာသိ၊ အာသိ၊ အာသိ။

(ဗဟုဝုစ်) အာသိမှ၊အာသိတ္ထ၊အာသုံ၊အာသိံသု။ အခဏ်း ၁၀ ၌ဘော်ပြအပ်သောရှေ့ဆက် အ–ကိုသတိပြုပါ။ အ+√အသ် +ံ=အာသိံ။

(၂) တည်ပုဒ်မှာ ဝိဘတ်ကို ထည့်ခြင်း။ ပြယုဂ်၊ √ပါ, သောက်ခြင်း– (ဧကဝုစ်) ပိဝိံ၊ ပိဝိ၊ ပိဝိ။ (ဗဟုဝုစ်) ပိဝိမှ၊ ပိဝိတ္ထ၊ ပိဝိံသု။ (တည်ပုဒ်)–ပိဝ်)။

(၃) ဓာတ်၌သော်ဒင်း။ တည်ပုဒ်၌သော်ဒင်း အဆုံးဖြစ်သော သရကိုမချေလျှင် ထိုသရနှင့်ဝိဘတ်ကြားတွင် သ–ကို ထည့်သွင်းရသည်။ ဇ–ကို ထည့်ခြင်းမှာ သရနှစ်ခုတို့ ဆက်သွယ်ခြင်းမရှိနိုင်၍ ဆက်သွယ် မိစေခြင်းမျှဖြစ်သည်။ ပြယုဂ်၊ √ စုရ်, ခိုးခြင်း– (ဧကဝုစ်) စောရေသိံ၊ စောရေသိ၊ စောရေသိ။ (ဗဟုဝုစ်) စောရေသိမှ၊ စောရေသိတ္ထ၊ စောရေသုံ၊ ဝါ၊ စောရေသိံသု။

ဘာသာပြန်။ ။ (၁) တေနံ ဒုက္ခာ မောစေသဿန္တိ။ (၂) သော ကညံ ဩဒနံ ပါစေသိ။ (၃) အမစ္စော တဿ ပုတ္တဿ ဂါမံ ဒါပေသိ။ (၄) တေ တယော ပုရိသာ အမှေ ဘတ္တံ ဘုဥ္ဇာပေသုံ။ (၅) စတ္တာရော ပုတ္တာ ဒွေ ပုရိသေ ဧကံ သီဟံ မာရေဿန္တိ။ (၆) သစေ တေ မမ ဒွေ သဟာယာ (ပ–အဆွေ ခင်ပွန်း) နာ႑ဂစ္ဆေယျုံ အဟံ တေဟိ သဟ ဂန္တုံ န သက္ကုဏိဿာမိ။(၇) စတ္တာရော စောရာ ဧကိဿာ ဂုဟာယံ(က္လ–ဂူ) မဟန္တံ ဘဏ္ဍံ နိဒဟိံသု(ဝှက်ထားသည် √ဓာ)။ (၈) ပက္ကောသာဟိ (√ ကုသ်,ခေါ်ခြင်း) ဒသ ပုရိသေ။ (၉) ယဒါ မမ ပိတာ အာဂစ္ဆေယျ တဒါ မံ ပက္ကောသာပေယျ။ (၁၀) သော စတ္တာရော သာဋကေ (ပ–ပုဆိုး) ဝိက္ကိဏိ။

(၁) ကျွန်ုပ်တို့ကို မြို့သို့ဆောင်ယူအပ်ကြလတ့်။ (၂) လူ့နောက်သို့ ပြေးလိုက်နေသော ငါကို မြင်အပ်ပြီ။ (၃) သူကို

တိုင်းပြည်အောင်မြင်စေလော့။ (၄) ထိုင်၍ သူ့ကိုသမင်နှင့် အတူ ကစားစေလော့။ (၅) လူလေးယောက်နှင့် မိန်းမငါး ယောက်တို့သည် ခြသေ့်ကို သတ်ကြ၏။ (၆) ကျွန်ုပ်ကို ခေါ် လျှင် သင်နှင့်အတူလိုက်မည်။ (၇) သူသည်အလွန်ခွန်အားကြီး သော လူတယောက်ဖြစ်၏ (၈) သူတို့သည် ကျွန်ုပ်၏ အ ကောင်းဆုံးသော မိတ်ဆွေများ ဖြစ်ကြ၏။ (၉) လူကလေး ထက် မိန်းကလေးက အသက်ကြီး၏။ (၁၀) ကျွန်ုပ်၏ ဥစ္စာ ပစ္စည်းအားလုံးကို ခိုးသူနှစ်ဆယ်တို့သည် ခိုးယူကြလေပြီ။

## အခဏ်း ၂၀။

## ကိစ္စကိတ်နာမ်။

ဤသည်၏လက္ခဏာများကား တဗ္ဗ၊အနီယ၊ယ တို့တည်း။

(က) တဗ္ဗ ကို(၁)အာ–သရဆုံးသော ဓာတ်သို့ တိုက် ရိုက်ဆက်သွယ်ရသည်။ ပြယုဂ်၊

√ ဒါ–ဒါတဗ္ဗ။ √ ဟာ–ဟာတဗ္ဗ။

ဓာတ်၏သရဖြစ်သော ိ၊ီ တို့သည် ေ–သို့ ပြောင်းလဲ ကြသည်။ ပြယုဂ်၊

√ ဇိ–ဇေတဗ္ဗ။ √ နီ–နေတဗ္ဗ။

တရံတခါ တည်ပုဒ်သို့လည်း ပြောင်းလဲကြသည်။ ပြယုဂ်၊ ဇယိတဗ္ဗ။ နယိတဗ္ဗ။

–ု၊ –ူ ဆုံးသောဓာတ်တို့ကား။ တည်ပုဒ်သို့ ပြောင်းလဲကြ သည်။ ပြယုဂ်၊

√ စု–စဝိတဗ္ဗ။ √ ဘူ–ဘဝိတဗ္ဗ။ √ သု–သဝိတဗ္ဗ။ သို့ရာ တွင် √ သု မှ သောတဗ္ဗဖြစ်နိုင်သေး၏။

(၂) ိ သရအားဖြင့် ဆက်သွယ်ရသည်။ ပြယုဂ်၊ √ ပစ်–ပစိတဗ္ဗ။ √ ပုစ္ဆ်–ပုစ္ဆိတဗ္ဗ။

(၃) တဗ္ဗ သည်ဓာတ်၏အဆုံးဗျည်းနှင့်ဆုံတွေ့ကြသော် အခဏ်း ၁၅ ၌ဘော်ပြထားသည့် ပြောင်းလဲခြင်းများကို ရ၏။ ပြယုဂ်၊ √ ဂမ်–ဂန္တဗ္ဗာ။ √ လဘ်–လဒ္ဓဗ္ဗ။

မှတ်ချက်။ ။တဗ္ဗ သည် တနှင့်စသော ပစ္စည်းဖြစ်ရကား။ ၎င်းကိုအထက်ကဘော်ပြအပ်ပြီးသော တ ပစ္စည်း၊ တုံ ပစ္စည်း၊ တွာ ပစ္စည်းတို့ကဲ့သို့ပင် ဆက်သွယ်ရကြောင်းထင်ရှား၏။

(ခ) အနီယ ကိုဓာတ်သို့ဖြစ်စေ တည်ပုဒ်သို့ဖြစ်စေ ဆက်သွယ်ရ၏။ ပြယုဂ်၊

√ ကရ်–ကရဏီယ (ရ် အတွက်ကြောင့်နငယ်သည် ဏကြီး သို့ပြောင်းသည်။)

√ ပစ်–ပစနီယ။ √ ဘူ–ဘဝနီယ။

(ဂ) (၁) ယကို သရဆုံးသော ဓာတ်သို့ တိုက်ရိုက်ဆက်သွယ်ရသည်။ ပြယုဂ်၊

√ ဓိ–ဓေယျ။ √ ဒါ–ဒေယျ။ √ နီ–နေယျ။ √ ပါ–ပေယျ။ (ေ–ယျ ရုပ်ကိုမှတ်ပါ။)

(၂) ိ အားဖြင့် ဆက်သွယ်ရသည်။ ပြယုဂ်၊ √ ကရ်–ကာရိယ။ √ ဘရ်–ဘာရိယ (အာ သရကိုမှတ်ပါ။)

(၃) အခဏ်း ၈ (၂) ၌ ဘော်ပြ ထားသည့် အတိုင်း ပြောင်းလဲခြင်းများဖြစ်၏။ ပြယုဂ်၊

√ ခါဒ်–ခဇ္ဇ။ √ ဘုဇ်–ဘောဇ္ဇ။

သို့ရာတွင် √ ဘူ+ယ=ဘဂျ=ဘဗ္ဗ=ဘဗ္ဗ ဖြစ်နိုင်သေး၏။

ကိစ္စကိတ်နာမ်၏ အနက်ကား၊ အပ်သည်၊ သင့်သည်၊ ထိုက်သည်၊ ကောင်းသည်၊ လျောက်ပတ်သည်ဟူသည်တည်း။

ၚင်းကိုနပုန်းလိင်၌ နာမ်ရိုးရိုးကဲ့သို့ အသုံးပြုနိုင်သည်။ ပြယုဂ်၊ ခါဒနီယံ၊ဘောဇ္ဇံ, အစာ။

## သပစ္စာဂမပုဂ္ဂလနာမ်စား။

အတ္တာ*,မိမိ၊ ကိုယ်တိုင်။

| | **ဧကဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| ကတ္တာ | –အတ္တာ။ | အတ္တာနော။ |
| သာမီ၊သမ္ပဒါန | –အတ္တနော။ | အတ္တာနံ။ |
| ကမ္မ | –အတ္တာနံ၊အတ္တံ။ | အတ္တာနော။ |
| ကရဏ၊အပါဒါန | –အတ္တနာ၊အတ္တေန။ | အတ္တနေဟိ။ |
| ဩကာသ | –အတ္တနိ။ | အတ္တေသု။ |

ဥဒါဟရဏ်။ ။သော အတ္တနော ဃရံ ဂစ္ဆတိ, သူသည် မိမိအိမ်သို့သွား၏။

မှတ်ချက်။ ။အတ္တာ ၏ ဧကဝုစ်ကိန်းကို ဗဟုဝုစ်ကိန်း၏ အစား အသုံးပြုလေ့ရှိ၏။ အများအားဖြင့် သာမီကာရကကို ဤသို့အသုံးပြုကြ၏။ ပြယုဂ်၊

တေ အတ္တနော ဃရာနိ ဂစ္ဆန္တိ, သူတို့သည် မိမိတို့ အိမ်များသို့ သွားကြ၏။

အဗျယ H ပုဒ်ဖြစ်သော သယံ၊သာမံ ပုဒ်တို့သည် အတ္တာနှင့် အနက်အားဖြင့် တူကြ၏။ ပြယုဂ်၊ တေ သယံ ကရောန္တိ, သူတို့သည် မိမိတို့ကိုယ်တိုင်ပြုကြ၏။ သော သာမံ ကရောတိ, သူသည် မိမိကိုယ်တိုင်ပြု၏။

---

* သဒ္ဒါကျမ်းကြီးတို့၌ကား။အတ္တ–သဒ္ဒါကို တစုံတရာအမည်ထူးမပေးဘဲ။ ရာဇသဒ္ဒါ ဗြဟ္မသဒ္ဒါတို့ကဲ့သို့နာမ်ပုဒ်ရိုးရိုးအဖြစ်ဖြင့်သာပြဆိုသည်။

H ဝိဘတ်သက်သော်လည်း ပုဒ်နေမပြောင်းလဲဘဲ ဝိဘတ်သာ ကြေသွားရသော ပုဒ်ကို အဗျယပုဒ်ဟူ၍ခေါ်၏။

ဘာသာပြန်။ ။ (၁) ဒါနံ ဒါတဗ္ဗံ သီလံ ရက္ခိတဗ္ဗံ။ (၂) တေဟိ ဘိက္ခူဟိ ကုသလ ကမ္မံ ကရဏီယံ။ (၃) တုမှေဟိ မမ ဃရံ အာဂန္တွာ ဘောဇနီယံ ဘုဉ္ဇိတွာ ဝသိတဗ္ဗံ။ (၄) သော အမစ္စော ဇတံ ပုရိသံ ဘတ္တံ ပါစေယျ။ (၅) အတ္တာ ဝ အတ္တနော သာမိကော (သခင်) ဘဝတိ။ (၆) သော မဂ္ဂေါ (လမ်း) န ဂန္တဗ္ဗော။ (၇) တံ ဖလံ န ခါဒနီယံ။ (၈) ဇတံ ခီရံ န ပိဝိတဗ္ဗံ။ (၉) တံ န မေ ဒါတဗ္ဗံ။ (၁၀) သော ဩဒနော ပုန (တဖန်) ပစိတဗ္ဗော။

(၁) သူတို့ကိုယ်တိုင်ထမင်းချက်ကြပြီ။ (၂) မိန်းကလေးကိုယ်တိုင် ကျွန်ုပ်ကို ဦးခေါင်း၌ရိုက်ပြီ။ (၃)ထိုလူများနှင့် ဤမိန်းမတို့သည် ထိုဆင်သုံးကောင်တို့ကို အစာကျွေးသင့်ကြ၏။ (၄) ကျွန်ုပ်တို့သည် ထိုလူများကို ခြသေ့်ကို သတ်စေကြလတ့ံ။ (၅) ကျွန်ုပ်သည် ဆေးကိုထိုရှင်ဘုရင်သမီးထံမှရပြီ။ (၆) သူ့ကိုထိုလူ၏ ဖောင်ပေါ်မှာ ထိုင်စေလော့။ (၇) သင်သည် ရှင်ဘုရင်ကို ရှိခိုးသင့်၏။ (၈)သူတို့သည် ကျွန်ုပ်ထံလာပြီးလျှင် ပုစ္ဆာကို မေးသင့်ကြသည်။ (၉)မိမိတို့နေရာများ၌ သူတို့သည် ထိုင်ကြပြီ။ (၁၀) သင့်အား ကျွန်ုပ်၏ဆင်ဖြင့်အကျိုးမရှိ။

## အခန်း ၂၁။

## ကာရိုက်ကမ္မဘာဝကြိယာ။

ဤသည်ကား ကာရိုက် တည်ပုဒ်သို့ ယ ပစ္စည်းထည့်ခြင်းတည်း။ ကာရိုက်တည်ပုဒ် အဆုံးဖြစ်သော ဧ သည် ကြေ၍ ီ ဖြစ်လာ၏။ ပြယုဂ်၊

√ ပစ်–ပါစေတိ (ကာရိုက်) – ပါစီယတိ (ကာရိုက်ကမ္မဘာဝ), ချက်ပြုတ်စေအပ်၏။

√ ဘုဇ်–ဘောဇေတိ (ကာရိုက်) – ဘောဇီယတိ (ကာရိုက်ကမ္မဘာဝ), စားစေအပ်၏။

(သဒ္ဒါကျမ်းကြီးတို့မှာကား။ ပါစီယတိ–၌ ကာရိုက် ဏာယ ပစ္စည်း။ –အက္ခရာလာထားသည်ဟု ဆို၏။)

အနာဂတ်ကိတ်နာမ်။

ပစ္စုပ္ပန် ကိတ်ပစ္စည်းများ ဖြစ်သော အန္တ (ပရဿပဒ)၊ မာန၊ အာန (အတ္တနောပဒ) တို့ကို အနာဂတ်တည်ပုဒ်သို့ ဆက်သွယ်လျှင်၊ အနာဂတ်ကိတ်နာမ်ကိုရသည်။

(သဒ္ဒါကျမ်းကြီးတို့၌ကား။ ဿံ ပစ္စည်း။ န္တု ပစ္စည်း။ တနည်း။ ဿန္တု ပစ္စည်း။ မာန ပစ္စည်း။ အာန ပစ္စည်း ဟူ၍ သီးခြားပြဆိုသည်။)

| | **ပုလ္လိင်။** | **ဣတ္ထိလိင်။** | **နပုန်းလိင်။** |
|---|---|---|---|
| ပရဿပဒ | ပစိဿံ။ | ပစိဿတီ။ | ပစိဿံ။ |
| | ပစိဿန္တော။ | ပစိဿန္တီ။ | ပစိဿန္တံ။ |
| အတ္တနောပဒ | ပစိဿမာနော။ | ပစိဿမာနာ။ | ပစိဿမာနံ။ |
| | ပစိဿနော။ | ပစိဿာနာ။ | ပစိဿာနံ။ |

ဤသည်တို့သည် အသုံးအနှုန်းအားဖြင့်သော်၎င်း။ ပဒမာလာ စဉ်ခြင်းအားဖြင့် သော်၎င်း။ ပစ္စုပ္ပန်ကိတ်နာမ်တို့နှင့် တူကြ၏။ အနက်သော်ကား အနာဂတ်အနက်ဖြစ်၏။

မှတ်ချက်။ ။ဝဋ္ဋတိ ဟူသော ကြိယာကို အဝုတ္တ ကတ္တာနှင့် သို့မဟုတ် တတိယာ (ကရဏ) ဝိဘတ်နှင့် သုံးရသည်။ သင့်သည်၊ သင့်လျော်သည်–ဟူသောအနက်ထွက်၏။ ပြယုဂ်၊ မယာ တံ ဃရံ ဂန္တုံ ဝဋ္ဋတိ, ငါသည် ထိုအိမ်သို့ သွားသင့်၏။ သမ္ပဒါနဝိဘတ်ကိုလည်း အသုံးပြုနိုင်၏။

သက္ကာ ဟူသော အဗျယ ပုဒ်ကို–တတ်သည်၊ တတ်နိုင်သည်–ဟူသော အနက်၌ အဝုတ္တ ကတ္တာ တတိယာ ဝိဘတ်

နှင့်သုံးသည်။ ပြယုဂ်။ မယာ တံ ဃရံ ဂန္တုံ န သက္ကာ, ငါသည် ထိုအိမ်သို့ မသွားတတ်၊ မသွားနိုင်။

√ ဟူ (ဟောမိ၊ ဟောသိ၊ ဟောတိ–အစရှိသည်) ကို ပိုင်ဆိုင်ခြင်း။ ရှိခြင်းအနက်၌သုံးရာ။ ပိုင်ဆိုင်ရှင်ကို သာမိပြုလုပ်၍ သုံးရသည်။ ပြယုဂ်၊

တဿ ပုတ္တာ ဟောန္တိ, သူ့မှာ သားများရှိကြ၏။

မမ ဧကော ဓီတာ ဟောတိ, ကျွန်ုပ်မှာ သမီးတယောက်ရှိ၏။

ဗဟုဝုစ်ကိန်းပင် ဖြစ်သော်လည်း။ တရံတခါ ဟောတိကို သုံးတတ်၏။ ပြယုဂ်၊

တဿာ ပုတ္တာ ဟောတိ။

ဘာသာပြန်။ ။(၁) တေ နဂရံ စရိဿမာနာ တဿ ဃရံ ဂစ္ဆိဿန္တိ။ (၂) သော ကမ္မံ ကရိဿန္တံ တံ ပုရိသံ ဝဓိဿတိ။ (၃) အမစ္စာ ပဗ္ဗတဿ သမီပေ တိဋ္ဌန္တာနိ ဃရာနိ အာဂစ္ဆိဿန္တိ။ (၄) သာ အတ္တနော ဃရံ အာဂတာ။ (၅) ပါပါနိ ကမ္မာနိ ဧတေဟိ ပုရိသေဟိ ကတာနိ။ (၆) တေန ဒါရကေန ပဥှံ ပုစ္ဆိတုံ န သက္ကာ။ (၇) အညေသံ နိဓိံ စောရေတုံ န ဝဋ္ဋတိ။ (၈) တဿာ ကညာယ ဘတ္တံ လဒ္ဓုံ သက္ကာ။ (၉) တုမှေဟိ တံ ရာဇာနံ ပဿိတုံ န ဝဋ္ဋတိ။ (၁၀) ဧတေဟိ ပုရိသေဟိ ဒေဝိံ ပဿိတုံ န သက္ကာ။

(၁) တိုင်းပြည်ကို ထိုရှင်ဘုရင်နှစ်ပါးတို့ အောင်မြင်အပ်ပြီ။ (၂) ဆင်ကို သူ၏ အိမ်မှ ကျွန်ုပ် ယူဆောင် အပ်ပြီ။ (၃) ကျွန်ုပ် နောက်သို့ ပြေးလိုက်သော လူသည် သူ့ကို သတ်အပ်ပြီ။ (၄) အိမ်ကို ကျွန်ုပ်အား မိန်းကလေး ပေးသည် ဖြစ်အံ့၊ ကျွန်ုပ်သည် ထို၌နေလတ္တံ့။ (၅) ဖောင်ပျက်စီးလျှင်၊ အရှင်ကို ခေါ်လော့။ (၆) သင်တို့သည် ကောင်းမှု များကို

ပြုရန်သင့်၏။ (၇) သူ့ကို ကျွန်ုပ် အစာမပေးနိုင်။ (၈) ဤလူတို့သည် ထိုမိန်းကလေးတို့၏ စကား ပြောခြင်းကို နားမထောင်လိုကြ။ (၉) အမတ်တို့သည် မြို့သို့ ရောက်ရန် တတ်နိုင်ကြလိမ့်မည် မဟုတ်။ (၁၀) လူကလေးသည် ရေကို မသောက်နိုင်။

## အခန်း ၂၂။

## အနာဒရနှင့် ဘာဝလက္ခဏ အသုံးအနှုန်း။

ဝါကျ တခုထဲမှာ ကြိယာနှစ်ခုပါပြီးလျှင် တချိန်တကာလတည်း အပြိုင် ဖြစ်နေ၍ ရှေ့ကြိယာ ပုဒ်၌ငင်း။ ထိုကြိယာ၏ ကတ္တားဖြစ်သော နာမ်ပုဒ်၊ နာမ်စား ပုဒ်တို့၌ငင်း။ သာမီ ဝိဘတ်ဖြစ်စေ။ ဩကာသ ဝိဘတ်ဖြစ်စေ သက်လျှင် အနာဒရဟု ခေါ်၏။ ထို အနာဒရ ကြိယာပုဒ်ကို မြန်မာဘာသာ အားဖြင့် 'တုန်း' 'စဉ်အခါ' ဟု အဓိပ္ပါယ် ပြန်ရသည်။ ရှေ့ကြိယာက ဦး၍ ထိုကြိယာ ပုဒ်၌ငင်း။ ထိုကြိယာ၏ ကံ၊ ကတ္တားဖြစ်သော နာမ်ပုဒ်၊ နာမ်စားပုဒ်တို့၌ငင်း။ ဩကာသဝိဘတ်သက်လျှင် ဘာဝလက္ခဏဟု ခေါ်၏။ ၎င်း ဘာဝလက္ခဏ ကြိယာပုဒ်ကို မြန်မာဘာသာ အားဖြင့် 'သော်' 'လတ်သော်' ဟု အဓိပ္ပါယ်ပြန်ရသည်။ ဥဒါဟရဏ်။

တဿ နဂရံ ဂစ္ဆန္တဿ (ဝါ၊ ဂစ္ဆမာနဿ) အဟံ တံ ဝဓိံ, သူသည် မြို့သို့ သွားစဉ် အခါ၊ ကျွန်ုပ် သူ့ကို သတ်ပြီ။ (အနာဒရ)

ဩကာသ ဝိဘတ်ကို သုံးလျှင်၊ တသ္မိံ နဂရံ ဂစ္ဆန္တေ အဟံ တံ ဝဓိံ–ဟုဖြစ်၏။

သွားခြင်းက အလျင်ပြီးလျှင်၊ အတိတ်ကိတ်ကို သုံးရသည်။ ဥဒါဟရဏ်၊

တသ္မိံ နဂရံ ဂတေ အဟံ တံ ဝဓိံ,။ သူသည် မြို့သို့ရောက် သော်၊ ကျွန်ုပ် သူ့ကို သတ်ပြီ။ (ဘာဝလက္ခဏ။)

## ဣတိဝစနပုဒ်။

တိ–ဟူသောပုဒ်သည် ဣတိ–ဟူသောပုဒ်မှ ဣ–သရကြေ သဖြင့် ဖြစ်လာသည်။ ၎င်းပုဒ်ကို သူတပါးက ပြောဆိုသော စကားကို တဆင့် ပြောဆိုရာ၌ သုံးသည်။ ။ပြောဆိုခြင်း၊ မှည့်ခြင်း၊ ထင်မှတ်ခြင်း၊ သိခြင်း ကြိယာများနှင့် အသုံးများ သည်။

တိ–ကိုမြန်မာဘာသာပြန်ရာ၊ 'ဟု'၊ 'ဟူ၍' ဤစကားတခုခု ဖြင့် ပြန်ရသည်။

ပရောက္ခာဖြစ်သော 'အာဟ' , ဆို၏၊ 'အာဟံသု' , ဆိုကြ ကုန်၏ ဟူသော ကြိယာများနှင့် တိ–ကိုများစွာ သုံးရသည်။ အာဟ၊အာဟံသု တို့၏ ဓာတ်ကား √ အာဟ် ဖြစ်၏။ (သဒ္ဒါ ကျမ်းကြီးတို့၌ 'ဗြူ'ဓာတ်။ ၎င်းဗြူ ကိုမှ–အာဟ–ပြုသည်။)

(က) တိ–ရှေ့၌ရှိသော သရသည် ရှည်ရမည်။ တိုလျှင် ရှည်အောင်ပြုရမည်။ ဥဒါဟရဏ်၊ သတ္ထာ 'အနာဂတေ ဗုဒ္ဓေါ ဘဝိဿတီ'တိ ဗျာကရောသိ, နောင်ကာလ၌ ဘုရားဖြစ်လိမ့် မည်ဟု ဘုရားဗျာဒိတ်ကြားတော်မူ၏။

မှတ်ချက်။ ။တိ–ရှေ့ကသရကို ဒီဃပြုရခြင်း အကြောင်း ကားဤသို့တည်း။ဣတိပုဒ်၌ ဣကြေရကား၊တိ–ရှေ့ကကြိယာ ၏ အဆုံးသရသည် ဒီဃဖြစ်လာ၏။

(ခ) တိ–ရှေ့၌ နိဂ္ဂဟိတ်ရှိမူကား၊ ၎င်း နိဂ္ဂဟိတ်သည် န–အဖြစ်သို့ရောက်၏။ဥဒါဟရဏ်၊ 'မရဏန္တံ ဟိ ဇီဝိတန္တိ' အာဟ,၊ အသက်သည် သေခြင်း၌ဆုံး၏ဟူ၍ သူဆို၏။

## √ အသ်,ဖြစ်ခြင်း၊ရှိခြင်း။

### ပစ္စုပ္ပန်။

| | **ကေဝုစ်။** | **ဗဟုဝုစ်။** |
|---|---|---|
| အမှ – | အသ္မိ၊အမှိ။ | အသ္မ၊အမှ။ |
| တုမှ – | အသိ။ | အတ္ထ။ |
| အမှ – | အတ္ထိ။ | သန္တိ။ |

မှတ်ချက်။ ။သန္တိ ပုဒ်သည် အသန္တိ ပုဒ်မှ အ–ကြေသဖြင့် ဖြစ်၏။

### အဇ္ဇတနီ။

| | |
|---|---|
| အာသိံ။ | အာသိမှ။ |
| အာသိ။ | အာသိတ္ထ။ |
| အာသိ။ | အာသုံ၊အာသိံသု။ |

ဤပစ္စည်းကား အခဏ်း ၁၉ ၌ပြအပ်သော အဇ္ဇတနီတတိယ နည်းမျိုး၌သုံးသော ပစ္စည်းများဖြစ်သည်။

### သတ္တမီ။

| | |
|---|---|
| အဿံ။ | အဿာမ။ |
| အဿ။ | အဿထ။ |
| အဿ၊သိယာ။ | အဿု၊သိယုံ။ |

### အာဏတ္တိ။

| | |
|---|---|
| အသ္မိ၊အမှိ။ | အသ္မ၊အမှ။ |
| အာဟိ။ | အတ္ထ။ |
| အတ္ထု။ | သန္တု။ |

ပစ္စုပ္ပန်ကိတ်–သန္တ၊ သမာန (ပု)။ သန္တီ၊ သတီ၊ သမာနာ(ဣ)။

သန္တ ကို 'ကောင်းသော' အနက်၌ နာမဝိသေသန ကဲ့သို့ သုံးနိုင်သည်။ ပြယုဂ်၊ သန္တော ပုရိသော, ကောင်းသော လူသည်=သူတော်ကောင်းသည်။ ဤအနက်၌ ၎င်းကိုနာမ်ကဲ့သို့ သုံး၍အခဏ်း ၁၃ ၌ ပြအပ်သော ပစ္စုပ္ပန်ကိတ်၏ အထူးဝိဘတ် သွယ်နည်းအတိုင်း ဝိဘတ်သွယ်နိုင်သည်။

သတော – သဝိဘတ်။ (သာမိ)။
သတိ – သ္မိံဝိဘတ်။ (ဩကာသ)။
သတံ – နံဝိဘတ်။ (သာမိဗဟုဝုစ်)။
သဗ္ဘိ – ဟိဝိဘတ်။ (ကရဏ၊အပါဒါနဗဟုဝုစ်)။

ဥဒါဟရဏ်ကား၊ သဗ္ဘိ ကုသလံ ကတံ, ကုသိုလ်ကို လူကောင်းတို့ပြုအပ်ပြီ။ √ အသ်–မှဖြစ်သော ရုပ်တို့၏အစ အ–အက္ခရာသည် ရှေ့ပုဒ်၏အဆုံးသရနှင့်တွေ့သော် သန္ဓိကိုသတိပြုပါ။ ဥဒါဟရဏ်၊

ကောသိ=ကော+အသိ, သင်မည်သူနည်း။
မာသိ=မေ+အာသိ, ကျွန်ုပ်မှာရှိ၏။

မှတ်ချက်။ ။အတ္ထိကို ဟောတိကဲ့သို့ ပိုင်ဆိုင်ခြင်းအနက်၌ သုံးနိုင်သည်။

ပုတ္တာ မယှံ အတ္ထိ, ကျွန်ုပ်မှာသားများရှိကြ၏။

ဘာသာပြန်။ ။ (၁) 'ကောသိ တွန္တိ' ပုစ္ဆတိ။ (၂) 'သော ပုရိသော မမ သာမိကော ဟောတူ'တိ ယာစတိ။ (၃) မာတာပိတရော အတ္တနော ဓီတရံ 'သုဇာတာ'တိ နာမံ အကံသု။ (၄) တေ အမစ္စာ 'တုမှေဟိ ကုသလံ ကတန္တိ' အာဟံသု။ (၅) ကညာ 'ကိန္တေ ဇာတေန သုခေနာ'တိ ပုစ္ဆိံသု။ (၆) တေ မံ တသ္မာ ဒုက္ခာ စ မရဏာ မောစေသုန္တိ။ (၇) သော တံ ဘတ္တံ ဘောဇေသိ။ (၈) ရာဇာ တသ္မ သေ

နာပတိဿ ဇေကံ နဂရံ ဒါပေသိ။ (၉) တေ မံ ဘတ္တံ ဘုဉ္ဇာ ပေသုံ။ (၁၀) အဟံ ပုရိသေ ဟတ္ထိံ မာရေသာမိ။

(၁) သူထမင်းချက်ပြီးလျှင်၊ငါစားမည်။ (၂) 'သင်သည် အလွန်မိုက်စွ'ဟုသူကိုပြောပါ။ (၃) 'သူကိုရလျှင်၊ ငါအသက် ရှင်မည်'ဟု သူ (က္လ) ကပြော၏။ (၄) ငါကို မည်သူခေါ် သနည်း။ (၅) 'ထိုကိုပြုလုပ်ရန် ငါတို့ မတတ်နိုင်ကြ'ဟု သူတို့ ပြောကြပြီ။ (၆) 'သင်လိမ္မာသည်'ဟု ထိုလူသည် ပြော၏။ (၇) 'ထိုကို မရလျှင်၊ ငါသေလတ္တံ့'ဟု မိန်းမက ပြော၏။ (၈) 'သင်တို့သည် အလွန်လိမ္မာကြ၏'ဟု မိဘတို့က မိမိတို့ သားသမီးတို့ကိုပြောကြပြီ။ (၉) 'ငါသည် မိဘရာ့မိတ်ဆွေကို သိ၏'ဟု သူပြောပြီ။ (၁၀) 'အလုပ်ကို သင်တို့လုပ်ကြသည် မဟုတ်၊ငါတို့လုပ်ကြ၏'ဟူ၍ မိန်းကလေးများကပြောကြပြီ။

## အခန်း ၂၃။

## အဗျယပုဒ်များ။

အဇ္ဇ, ယနေ့။
အတိဝိယ, အလွန်။
အတ္ထ၊အတြ, ထိုမှာ။
အထ, ထိုနောက်။
အန္တရာ, အထဲ၊အတွင်း၊အကြား။
အပိ(ပိ), ပင်၊သို့သော်လည်း။
အပ္ပေဝ (အပိ+ဧဝ), ပင်။
က္လတိ(တိ), ဟု၊ ဟူ၍။
က္လတော, ဤမှ၊ဤအခါမှ။
က္လဒါနိ, ယခု။
က္လဓ, ဤမှာ။

ဥပရိ, အထက်၌။
ဧတ္ထ, ဤမှာ၊ သည်မှာ။
ဧဝ (ဝ), ကဲ့သို့၊အတူ။
ဧဝံ, ဤသို့။
ကတ္ထ၊ကဟံ, အဘယ်မှာနည်း။
ကထံ, အဘယ်သို့နည်း။
ကဒါ, အဘယ်သောအခါ၌။
ကဒါစိ, တရံတခါ၊တခါတလေ။
ကိံ, အဘယ်ကြောင့်နည်း။
ကုတော, အဘယ်မှ။
ကုဟံ, အဘယ်မှာနည်း။
ကုဟိံ, အဘယ်မှာနည်း။
ကုဟိဉ္စိ၊ကုဟိဉ္စနံ, မည်သည့်အရပ်မှာမဆို။
ခေါ, စင်စစ်၊ကား။
စိရံ, ကြာမြင့်စွာ။
တတော, ထိုမှ၊ ထိုအခါမှစ၍၊ ထိုအရပ်မှ။
တတ္ထ၊ တတြ, ထိုမှာ၊ဟိုမှာ။
တထာ, ထိုနည်းတူ၊ထိုကဲ့သို့။
တဟိံ, ထိုမှာ၊ ဟိုမှာ။
တာဝ၊ တာဝတာ, ထိုမျှလောက်ကာလတိုင်အောင်။
ဒိဝါ, နေ့တွင်း၊ နေ့ခင်း။
နနု, မဟုတ်လော။
နာနာ, အသီးအသီး။
နာမ, အမည်ရှိသော။
နူန, ဧကန်မုချ၊အမှန်။
နော, မ၊မဟုတ်။
ပါတော, စောစော၊နံနက်။
ပုန, တဖန်။

ပုနပ္ပုနံ, ထပ်ခါထပ်ခါ၊အကြိမ်ကြိမ်။
ပုရေ, ရှေးက၊ အလျင်က။
မာ, မ ... နှင့်။
မုသာ, မဟုတ်မမှန်။
ယတော, အဘယ်အရပ်မှ။
ယာဝ၊ ယာဝတာ, ထိုမျှလောက်။
ဝိယ, ကဲ့သို့။
သဒါ, အခါတိုင်း။
သမန္တာ, အနားပတ်လည်၊ ထက်ဝန်းကျင်။
သမ္မာ, ကောင်းစွာ၊ စေ့စပ်စွာ။
သာယံ, ညနေဇးအချိန်။
ဟိ, စင်စစ်၊ အကြောင်းမူကား။
ဟိယျော, မနေ့က။
ဟေ, ဟေ့၊ (ခေါ်ခြင်း။)
ဟေဋ္ဌာ, အောက်အရပ်။

အစဉ်မပြတ်ဖြစ်ခြင်းအနက်သည် အစ္စန္တသံယောဂမည်၏။ ၎င်းအနက်မှာ ဒုတိယာဝိဘတ် (ကမ္မကာရက) သက်ရ၏။

အချိန်ကာလအားဖြင့် အစဉ်မပြတ်ခြင်း။ ကာလအစ္စန္တ သံယောဂမှာ'လုံး' 'ပတ်လုံး'ဟူ၍ မြန်မာပြန်ရာ၏။ ဥဒါဟရဏ်။ သော ဒိဝသံ ဥယျာနေ ဝိစရိ, သူသည် တနေ့လုံး (တနေ့ပတ်လုံး) ဥယျာဉ်၌ လှည့်လည်ပြီ။

လမ်းခရီးအားဖြင့် အစဉ်မပြတ်ခြင်း။ အဒ္ဓါန အစ္စန္တ သံယောဂမှာ 'တိုင် တိုင်' ဟူ၍ မြန်မာ ပြန်ရာ၏။ ဥဒါဟရဏ်။ ယောဇနံ ဒီဃော ပဗ္ဗတော, တောင်သည် တယူဇနာတိုင်တိုင် ရှည်လျား၏။

ကြိယာဝိသေသ အနက်၌လည်း များသောအားဖြင့် ဒုတိ ယာဝိဘတ် သက်ရ၏။ မြန်မာပြန်သောအခါ။ 'အလျောက်' 'စွာ'၊'စုံ'၊ 'အတိုင်း'၊ စသော စကားတို့ဖြင့် ပြန်ဆို၏။ ဥဒါ ဟရဏ်။

(က) အတ္တနော သန္တိကံ သမ္ပတ္တယာစကာနံ ယထာရဟံ ဒါတဗ္ဗံ, မိမိအထံသို့ရောက်လာသော သူတောင်းစားတို့အား အထိုက် အလျောက် (ထိုက်သည့်အားလျော်စွာ) ပေးအပ် ၏။

(ခ) တွံ ကမ္မံ သြဒနံ မုဒုံ ပစာဟိ, သင်သည် ဤထမင်းကို နူးညံ့စွာချက်ပါ။

(ဂ) တယာ သိက္ခိတသိပ္ပါနိ ပရိပုဏ္ဏံ သိက္ခာဟိ, သင် သင်ကြား အပ်သော အတတ် ပညာတို့ကို အပြည့်အစုံ သင် ကြားပါ။

(ဃ) ကမ္မာနိ ဓနာနိ ယထိစ္ဆိတံ ဂဟေတွာ ဂစ္ဆ, ဤဥစ္စာ တို့ကို အလိုရှိတိုင်း ယူ၍ သွားပါ။

တုမှေ ယထာကမ္မံ နိသီဒိတွာ ဘောဇနံ ဘုဉ္ဇထ, သင် တို့သည် အစဉ်အတိုင်းနေ၍ ထမင်းစားကြပါ။

အချို့ပုဒ်တို့သည် သမ္ပဒါနကာရကဖြစ်လျက် ကမ္မကာရက နှင့် အလားတူ၍နေ၏။ ဥဒါဟရဏ်။သော နဒိံ ဇလတ္ထံ ဂစ္ဆတိ, သူသည် မြစ်သို့ ရေအလို့ငှာ သွား၏။

ဇလတ္ထံ၏ အစား ဇလတ္ထာယ ကိုလည်း သုံးနိုင်သည်။

တဒတ္ထံ, ထိုအလို့ငှာ=ထိုအတွက်။ ကိမတ္ထံ, အဘယ်အလို့ ငှာ=အဘယ်အတွက်–ဟူသော ပုဒ်များလည်း ရှိသေးသည်။

တားမြစ်ခြင်း။

မာ–ကို ပရောက္ခာနှင့်ဖြစ်စေ၊ အဇ္ဇတနီနှင့်ဖြစ်စေ သုံးသော်၊ အတိတ်ကာလဟူသော အနက်ထူးကိုမရ။ တားမြစ်ခြင်းအနက်သာရ၏။ ပြယုဂ်၊

မာ အကာသိ, မပြုပါနှင့်။ မာ ဘာယိ, မကြောက်ပါနှင့်။

ယ–နှင့်ဆုံးသော ပဌမ ပုဗ္ဗကြိယာပစ္စည်းအချို့တို့ကို ကြိယာဝိသေသနကဲ့သို့ သုံးနိုင်သည်။ ဥဒါဟရဏ်။

(က) ဣတော ပဌာယ (ပ √ ဌာ+ယ) မာ တံ အကာသိ, ဤအခါမှစ၍ ထိုကိုမပြုပါလင့်။ (အပါဒါနနှင့်သုံးသည်။)

(ခ) တံ နဂရံ နိဿာယ (နိ √သိ+ယ) ဧကော ရုက္ခော ဟောတိ, ထိုမြို့ကိုအမှီပြု၍ သစ်ပင်တပင်ရှိ၏။ (ကမ္မ ကာရကနှင့် သုံးသည်။)

(ဂ) သတ္ထာ ဧကံ ကညံ အာရဗ္ဘ ( အာ √ ရဘ်+ယ ) (ဝါ၊ သန္ဓာယ–သံ √ ဓာ+ယ) တံ ဝတ္ထုံ ဘာသတိ, ဆရာသည် မိန်းကလေးတယောက်ကို အကြောင်းပြု၍(သို့မဟုတ်။ မိန်းကလေးတယောက်ကို ရည်ရွယ်၍) ထိုဝတ္ထုကို ပြော၏။ (ကမ္မကာရကနှင့် သုံးသည်။)

ဘာသာပြန်။ ။(၁) ကုတော အာဂစ္ဆတိ။ (၂) ကုဟိံ ဂစ္ဆသိ။ (၃) ကဒါ ဘာသိဿသိ။ (၄) ကဟံ ဝသသိ။ (၅) ဟိယျော သော ပုရိသော မရိ။ (၆) စန္ဒော (လ) အတိဝိယ ဒိပ္ပတိ (√ ဒိပ်, တောက်ပခြင်း။) (၇) သူရိယော ဒိဝါ ဒိပ္ပတိ။ (၈) ကထံ တံ ဓောရံ ဂဏှိဿာမ။ (၉) ဧဝံ မေ သုတံ။ (၁၀) အဇ္ဇ မမ ဃရံ မာ ဂမိ။

(၁) သင်တို့သည် အဘယ်ကြောင့် မကောင်းမှု များကို ပြုကြသနည်း။ (၂) သင်တို့သည် အဘယ်မှာ ရေသောက်ကြ

မည်နည်း။ (၃) 'သင်အဘယ်မှာနေသလဲ'ဟု သူ့ကိုမေးပါ။ (၄) နက်ဖြန် သူ့အိမ်သို့မသွားနှင့်။ (၅) ယနေ့ သင် ဇကန် အမျန်သေရမည်။ (၆) ထိုလူနှင့်ပတ်သက်၍ (ဇတံ မနုဿံ ပဋိစ္စ) သင်တို့သည် တစုံတရာမျှ မသိကြ။ (၇) အဘယ် အကြောင်းကြောင့် သူသည် မိန်းကလေးနောက်သို့ ပြေးလိုက် သနည်း။ (၈) သူသည် မိန်းကလေးနောက်သို့ နာမည်မေး ရန် ပြေးလိုက်ပြီ။ (၉) သူတနေ့လုံး အိပ်ပြီ။ (၁၀) သူ့ငွေး တယောက်သည် တယူဇနာတိုင်တိုင် မိမိမယားနှင့်အတူတကွ သွားလေ၏။

## အခဏ်း ၂၄။

## ပုစ္ဆာ။

ဘော်ပြအပအပြီးသော ပုစ္ဆာပုဒ်များအပြင်၊ပုစ္ဆာမေးခြင်း၌ အသုံးပြုရန်အခြားနိပါတပုဒ်များလည်းရှိကြသေး၏။ထိုပုဒ်တို့ ကား အပိ၊နု-တို့တည်း။

(က) အပိ ကို ပုစ္ဆာဝါကျ၌ အစအဦးက ထားရသည်။ ပြယုဂ်၊

အပိ ဒါရက အမှာကံ မာတရံ ဇာနာသိ, လူကလေး၊ သင် သည် ငါတို့၏ အမိကို သိသလော။

(ခ) နု ဖြင့်ဝါကျကို မစရ။ ပြယုဂ်၊

သဟာယာ နု တေ အတ္ထိ, သင့်မှာ မိတ်ဆွေများ ရှိသ လား။

နု ကို ခေါ်နှင့်အတူတကွ အသုံးများသည်။ ပြယုဂ်၊

ကောစိ နု ခေါ် ဥပဒ္ဒဝေါ ဟောတိ, ဘေးဥပဒ် တစုံတရာ ရှိသလား။

(ဂ) အဓိပ္ပါယ် လေးနက်စေခြင်း အလို့ငှာ အပိ နှင့် နု ခေါတို့ကို အတူတကွ သုံးနိုင်သည်။ ပြယုဂ်၊

အပိ နု ခေါ ဥပဒ္ဒဝေါ ဟောတိ, ဘေးဥပဒ် တစုံတရာ အမှန်ရှိသလား။

ကြိယာကိုဝါကျဦး၌ ထားခြင်းဖြင့်လည်း ပုစ္ဆာကို မေးနိုင်သည်။ ပြယုဂ်၊

ဂစ္ဆသိ နုဂရံ, သင်သည်မြို့သို့ သွားသလား။

မှတ်ချက်။ ။ပုစ္ဆာ ဝါကျ၌ နု–ကို အများအားဖြင့် ဒုတိယပုဒ်နေရာမှာ ထားရသည်။ ပြယုဂ်၊

တွံ နု ယောဓော, သင် စစ်သားလား။

**စ နှင့် ကာမ။**

(က) ဝါကျတွင်ယောဂချင်း ကွဲပြားသော ကတ္တားနှစ်ခု၊ သုံးခုစသည်ရှိမူ။ ကြိယာသည် ဗဟုဝုစ်ကန်းဖြစ်၍၊ နောက်ဆုံး ကတ္တားနှင့် ယောဂချင်းတူစေရမည်။ ပြယုဂ်၊

သော စ အဟံ ဂစ္ဆာမ, သူနှင့်ငါတို့ သွားကြ၏။

(ခ) ကာမ–ကို ဒုတိယပုဗ္ဗကြိယာနောက်၌ ဆက်သွယ်လျှင်၊ အလိုရှိ၏–ဟူသော အနက်ရ၏။

ဒုတိယ ပုဗ္ဗ ကြိယာပစ္စည်းမှ နိဂ္ဂဟိတ် အစဉ်ကြေမြဲတည်း။ ပြယုဂ်၊

သော မံ ပဿိတုကာမော, သူသည် ငါ့ကို ကြည့်ရန် အလိုရှိ၏။

နောက်ဆက်ပစ္စည်းများ။

အဟံ*, နေ့၊ ရက်။ ။ဧကာဟံ, တနေ့၊ တရက်။ဒွီဟံ, နှစ်ရက်။

အာဒိ*, စသော၊ အစရှိသော။ ။သုနခဟတ္ထိမိဂါဒယော (ဗဟုဝုစ်), ခွေး၊ဆင်၊သမင် အစရှိကုန်သော။

ဣက, ဆိုင်သော၊ စပ်ဆိုင်သော။ ။နာဝိကော, လှေနှင့်ဆိုင်သော (လှေသူကြီး)။

ဧယျ, လျောက်ပတ်သော၊ သင့်လျော်သော။ ။ပဗ္ဗတေယျ, တောင်နှင့်လျောက်ပတ်သော။

က, ပြုလုပ်သူ, ငယ်သော။ ။ဒါယက, အလှူပြုလုပ်သူ။ ပုတ္တက, သားငယ်။

ကာရ* (√ ကရ်,)ပြုသူ။ ။ဘတ္တကာရ, ထမင်းချက်သူ။ ခတ္တုံ, အခါ၊ အကြိမ်။ ။တိက္ခတ္တုံ, သုံးခါ၊ သုံးကြိမ်။

ဂ၊ ဂူ* (√ ဂမ်), သွားသော၊ လာသော။ ။ဥဂေါ, ရင်ဘတ်ဖြင့် သွားသော (မြွေ)။ ပါရဂူ, တဘက်ကမ်းသို့ရောက်သော။

ဇ* (√ ဇာ), ဖြစ်သော။ ။အဏ္ဍဇော, ဥမှဖြစ်သော။

ဇိ* (√ ဇိ), အောင်သော၊အောင်သူ။ ။မာရဇိ, မာရ်နတ်ကိုအောင်သူ။

တမ, တရ } နှိုင်းယှဉ်ခြင်း၌သုံးသောပစ္စည်း။ အခဏ်း ၁၉မှာကြည့်။

တာ (ဣ) , ခြင်း။ ။မတတ္တံ, သေပြီးသည်၏အဖြစ်။

ဒါ၊ဒါနိ, အခါ၊ အချိန်ကာလ။ ။တဒါ, ထိုအခါ။ ဣဒါနိ, ယခုအခါ။

ဒိ*, ကဲ့သို့၊ အလားတူ။ ။တာဒိ, ထိုကဲ့သို့။

ဒိသ* , ကဲ့သို့၊အလားတူ။ ။မာဒိသ, ငါကဲ့သို့သော။ တာဒိသ, ထိုကဲ့သို့သော။

ဓာ, အစု၊ အစိတ်။ ။ဒွိဓာ, နှစ်စု။

နံ(န), ခြင်း။ ။ဂစ္ဆနံ, သွားခြင်း။ ဒဿနံ, မြင်ခြင်း။

နာ(ဏ), ခြင်း။ ။ဒေသနာ, ဟောခြင်း။

ဘာဝ* (√ ဘူ) , အဖြစ်။ ။စောရဘာဝ,ခိုးသူ၏အဖြစ်။

ဘူ* (√ ဘူ) , ရှိသော၊ဖြစ်သော။ ။အဘိဘူ, အထက်မှာရှိသော၊ အောင်မြင်သော။

မတ္တံ, သာလျှင်။ ။ဧကမတ္တံ, တခုတည်းသာလျှင်။

မန္တု၊မာ } ပိုင်ခြင်းအနက်ဟောသောပစ္စည်းများ။ အခဏ်း
ဝန္တု၊ဝါ } ၁၉ မှာကြည့်။

မယ, ပြီးသော။ ။လောဟမယ, သံဖြင့်ပြီးသော။

ယံ (ဏ), ခြင်း၊အဖြစ်။ ။ဗာလျံ (ဗာလ+ယ), မိုက်မဲခြင်း။ ပဏ္ဍိစ္စ (ပဏ္ဍိတ+ယ), ပညာရှိခြင်း။ (တ+ယ=စ္စ)။

ရ, ရှိသော။ ။ဓီရ, ပညာရှိသော။

လ၊ လ္လ, မှီသော၊ရှိသော။ ။ကိမိလ, ပိုးရှိသော။ဒုဋ္ဌုလ္လ, မကောင်းမှုကို မှီသော။

သဒိသ* , ကဲ့သို့။ ။သုဝဏ္ဏသဒိသော, ရွှေကဲ့သို့သော။

မှတ်ချက်။ ။ဂ၊ ဇ၊ ဓိ၊ – တို့ကဲ့သို့သော ဓာတ်များကို နောက်ဆက် ပစ္စည်းကဲ့သို့ သုံးသော်၊ ၎င်းတို့ နောက်မှာ ကွိ ပစ္စည်းကြေသည်ဟူ၍ခေါ်၏။ ဂူ–မှာကား ဂူ–ပစ္စည်းဖြစ်သည်။

## သန္ဓိ(အခဏ်း ၅ မှအဆက်)

(က) အမျိုးမတူ သရရှေ့တွင် ဧ၊ဩတို့သည် ယ်၊ ပ် တို့သို့ ပြောင်းလဲကြ၏။ ပြယုဂ်၊

* ဤအမှတ်ပြသော အရာမှာ ပစ္စည်းမဟုတ်။ ပုဒ်ပင်ဖြစ်၏။ နောက်ဆက်ချင်း အလားတူသောကြောင့် ပစ္စည်းတို့နှင့် ရောနှောထားသည်။

တေ + အတ္ထု = တျတ္ထု။ မေ + အယံ = မျာယံ (အာ–သရကိုမှတ်ပါ)။ ခေါ+အသ=ခွသ။

(ခ) အမျိုးမတူသရရှေ့တွင် ဓိ သည် ဈ် ဖြစ်လာ၏။ပြယုဂ်၊ အဓိ+အာဝသတိ=အဇ္ဈာဝသတိ။

(ဂ) တခါတရံ ပုဒ်နှစ်ခုစပ်ကြား၌ စကားပြေပြစ်စေခြင်းငှာ အက္ခရာကို ထည့်သွင်းသည်။ ၎င်းအက္ခရာကို အာဂမ ဟုခေါ်၏။ ပြယုဂ်၊

ဒ–ကာရာဂမ။ ။တာဝ+ဧဝ=တာဝဒေဝ,ယခု၌ပင်။

မ–ကာရာဂမ။ ။အည+အည=အညမည, အချင်းချင်း။

ဝ–ကာရာဂမ။ ။သော+ဥဋ္ဌာတိ=သောဝုဋ္ဌာတိ, သူ ထ၏။

ယ–ကာရာဂမ။ ။န+ဣဒံ=နယိဒံ, ဤသည်ကားမဟုတ်။

ရ–ကာရာဂမ။ ။ပုန+ဧဝ=ပုနရေဝ, အသစ်တဖန်ပင်လျှင်။

(ဃ) တိုသောသရရှေ့ရှိ၍၊ ဗျည်းနှောင်းရာ၊ ဗျည်းသည် ဒွေးဘော်အဖြစ်သို့ရောက်၏။ ပြယုဂ်၊

ပ+ကမော=ပက္ကမော, ဖဲသွားခြင်း၊ အားထုတ်ခြင်း။

မှတ်ချက်။ ။ ရှေ့၌ရှိသော သရသည် ဒီဃဖြစ်မူ ၎င်းကိုရဿပြုပြီးမှ၊နှောင်ဗျည်းကို ဒွေးဘော်ပြုနိုင်သည်။အကြောင်းမူကား ဒွေးဘော်သည် ဒီဃနောက်မှာ နေရိုးမဟုတ်သောကြောင့်ဖြစ်၏။ ပြယုဂ်၊ ပရာ+ကမော=ပရက္ကမော, လုံ့လ၊ အားထုတ်ခြင်း။

(င) ဒွေးဘော်ပြုရမည့် ဗျည်းသည် အသံတင်း အက္ခရာဖြစ်မူ၊ မိမိနှင့်ဆိုင်သော အသံလျော့ကိုဆင့်သဖြင့် ဒွေးဘော်

ပြုရသည်။ (အခဏ်း ၆ ၌ ပြအပ်သော အဗ္ဗာသ၏ ဥပဒေ (၃) အတိုင်းဖြစ်သည်)။ ထို့ကြောင့်၊ နိ+ခိပတိ = နိက္ခိပတိ, ပစ်ချ၏။

(စ) နိဂ္ဂဟိတ်နောက်၌ သရနောင်းရှာ၊နိဂ္ဂဟိတ်သည် မ–ဖြစ်လာ၏။ ပြယုဂ်၊ ဧဝံ+အာဟ=ဧဝမာဟ, ဤသို့ဆို၏။

အောက်ပါသန္ဓိကိုမှတ်ပါ။

တံ+ဧဝ=တမေဝ, ထိုကိုသာလျှင်။နိဂ္ဂဟိတ်ရှေ့ရှိ၍၊ ယ–နောင်းသော်၊ ည–ဖြစ်၏။ ပြယုဂ်၊ တံ+ယေဝ=တညေဝ, သူ့ကိုပင်လျှင်။ သံ + ယတော = သညတော, စောင့်စည်းသည်။

(ဆ) နိဂ္ဂဟိတ်ရှေ့ရှိ၍၊ ဟ–နောင်းသော်၊နိဂ္ဂဟိတ်သည် ဉ–ဖြစ်၏။ ပြယုဂ်၊ ဧဝံ+ဟိ=ဧဝဉှိ, ဤသို့သာလျှင်။

(ဇ) ဗဟုဝုစ်သာမီ၊ ဧကဝုစ်ဩကာသကာရကနှင့် ဒုတိယ ပုဗ္ဗကြိယာ ပစ္စည်းတို့၏ အဆုံး နိဂ္ဂဟိတ်သည် တခါတရံ ကြေ၏။ ပြယုဂ်၊

ဗုဒ္ဓါန သာသနံ=ဗုဒ္ဓါနံ သာသနံ, ဘုရားရှင်တို့၏ သာသနာ။

တသ္မိ နဂရေ=တသ္မိံ နဂရေ, ထိုမြို့၌။

ပဿိတု ကာမော = ပဿိတုံ ကာမော, ကြည့်ရန်အလိုရှိ၏။

ဤနိဂ္ဂဟိတ်ကြေခြင်းမှာ ဆန်းကျမ်းနှင့်ညီညွတ်စေရန်ငှင်း၊ ရွတ်ဆို၍လွယ်စေရန်ငှင်းဖြစ်၏။

ဘာသာပြန်။ ။(၁) တေ စောရာ အညမညံ ပဟရန္တိ။ (၂) ဧတေ ပုရိသာ ပါဒေဟိ ဂန္တုံ န သက္ကာ။ (၃) အာစရိ

ယော (ဆရာ) သိဿေ (ပ–တပည့်) သိပ္ပါနိ (အတတ်) သိက္ခာပေဿတိ။ (၄) ကောစိ နု တံ ဒါရကံ ရက္ခံ ဒဿေတွာ တဿ ဖလာနိ စောရာပေသိ။ (၅) အဟံ တိဿော ဣတ္ထီ သစ္စံ ဇာနာပေသိံ။ (၆) သာ တုမှေ မရဏာ မောစေဿတိ။ (၇) အမှာကံ ပိတာ တေ မနုဿေ ဘောဇေတုံ မံ ဂစ္ဆာပေတိ။ (၈) ကော တုမှေ ဣမဿ္မိံ ဃရဿ္မိံ ဝသာပေတိ။ (၉) သောစ အဟန္တံ သိက္ခာမ။ (၁၀) အညော ရာဇာ တေ ရဋ္ဌံ ပရာဇေဿတိ။

(၁) အဘယ်သို့ သင်ပြုလုပ်သနည်း။ (၂) မနေ့ကကျွန်ုပ် အဘကို သင်ဘယ်မှာ မြင်ခဲ့သနည်း။ (၃) နံနက်စောစော ၌ သူသေပြီ။ (၄) မြစ်၏ ဤမှာဘက်ကမ်း၌ သူလျှောင်းနေသည်ကို သင်မြင်လတ္တံ့။ (၅) တခါတရံ သူသည်မကောင်းမှုကိုပြု၏။ (၆) သူတို့သည် အစဉ်မပြတ် မမှန်သော စကားများကို ပြောကြ၏။ (၇) သင်သည် ကျွန်ုပ်နှင့်အတူ လာမည်လား။ (၈) သူနှင့်ကျွန်ုပ်သည် ဤလှည်းကို ရောင်းကြလတ္တံ့။ (၉) ကျွန်ုပ်အား အစာအနည်းငယ် ပေးပါ။ (၁၀) သူ မိုက်သည် မဟုတ်လား။

## အခဏ်း ၂၅။

## သမာသ်ပုဒ်များ။

ပုဒ် ၂ ခုကိုဖြစ်စေ၊ ၂ခုထက်ပိုသည်ကိုဖြစ်စေ၊ တပုဒ်တည်းဖြစ်အောင် ဆက်စပ်သောပုဒ်ကို သမာသ်ဟုခေါ်သည်။ အလယ်ကရှိသည့် ဝိဘတ်ကို ချေဖျက်ခြင်းသည်ပင် သမာသ်စပ်သည်မည်၏။ ၎င်းကို ၆ မျိုးအားဖြင့် ပိုင်းခြားရာ၏။

(၁) ဒွန္ဒ။ (၂) တပ္ပုရိသ။ (၃) ကမ္မဓာရယ။ (၄) ဒိဂု။ (၅) အဗျယိဘာဝ။ (၆) ဗဟုဗ္ဗီဟိ။

(၁) စ–ဟူသောပုဒ်ကို ခြွင်းချန်သဖြင့် နာမ် ၂ခုဖြစ်စေ၊ ၂ခုထက် ပိုသည်ကို ဖြစ်စေ၊ ဆက်စပ်အပ်သော သမာသ်ကို ဒွန္ဒ ဟုခေါ်၏။ ဥဒါဟရဏ်၊

ဒေဝမနုဿာ=ဒေဝါ စ မနုဿာစ, နတ်နှင့် လူများ။

စန္ဒိမသူရိယာ=စန္ဒိမာ စ သူရိယော စ, လနှင့် နေ။

ဤသမာသ်ပုဒ်တို့ကို တလုံးစီတလုံးစီပေါင်း၍ ယူအပ်သည် မဟုတ်သောကြောင့်၊ ၎င်းတို့သည် ဗဟုဝုစ် ဝိဘတ်ကို ဆောင်ကြသည်။၎င်းဗဟုဝုစ်ဝိဘတ်ဆောင်သော သမာသ်ကို အမည်အားဖြင့် ဣတရီတရ သမာသ်ဟုခေါ်၏။

ဒွန္ဒသမာသ်၌ ရှိသောပုဒ်များကို တလုံးစီတလုံးစီအဓိပ္ပါယ်သွား မပျက်ဘဲနှင့်မယူသာသဖြင့် တလုံးတဝတည်းပေါင်း၍ယူသည်ရှိသော်၊နပုန်းလိင်၊ဧကဝုစ်ဝိဘတ်ကို ဆောင်၏။၎င်းကို သမာဟာရ သမာသ်ဟုခေါ်၏။

ပြယုဂ်၊ ဟတ္ထိအဿံ,ဆင်မြင်း အလုံးအရင်း(ဟတ္ထိနော စ အဿာ)။ဇရာမရဏံ,အိုခြင်းသေခြင်း(ဇရာ စ မရဏံ စ)။

ဒွန္ဒအရာ၌ ဣ၊ ဥ နှင့် ဆုံးသောပုဒ်တို့ကို အများအားဖြင့် ရှေ့ကထားရသည်။ ပြယုဂ်၊ဒါသိဒါသံ=ဒါသီ စ ဒါသော စ, ကျွန်မိန်းမနှင့် ကျွန်ယောကျ်ား။

စာလုံးနည်းသောပုဒ်နှင့် များသောပုဒ်တို့ကို တွဲစပ်လျှင်၊ နည်းသောပုဒ်ကို ရှေ့ထားတတ်၏။ ပြယုဂ်၊ စန္ဒသူရိယာ= စန္ဒောစ သူရိယော စ, လနှင့်နေတို့။

(၂) တပ္ပုရိသ သမာသ်၌ကား။ ရှေ့ပုဒ်သည် နာမ်ပုဒ်ဖြစ်၍ ကတ္တာ၊သာမိ၊သမ္ပဒါန စသော ကာရကတခုခု၌ဖြစ်သဖြင့်၊ နောက်ပုဒ်ကို အထူးပြုသည်။

(က) ကုလာဂရကတံ = ကုလာဂရေန ကတံ၊ အစိုးရပြုသော အမှု။ (ကတ္တာကာရက။)

(ခ) ကုမ္ဘကာရော = ကုမ္ဘံ ကာရော၊ အိုးလုပ်သူ။ (ကမ္မကာရက။)

(ဂ) ဥရဂေါ=ဥရေန ဂေါ၊ ရင်ဘတ်ဖြင့် သွားသောမြွေ။ (ကရဏကာရက။)

(ဃ) ရာဇပုတ္တော = ရညော ပုတ္တော၊ ရှင်ဘုရင့် သား။ (သာမိကာရက။)

(င) ဗုဒ္ဓဒေယျံ = ဗုဒ္ဓဿ၊ ဒေယျံ၊ ဘုရားလှူဘွယ်၊ (သမ္ပဒါနကာရက။)

မှတ်ချက်။ ။ဒုတိယ ပုဗ္ဗကြိယာ ပုဒ်နှင့် ကာမပုဒ်တို့ကိုလည်း။သမ္ပဒါန ကာရကနှင့် ဆိုင်သော တပ္ပုရိသ သမာသ်ဟူ၍မှတ်ရာ၏။ ပြယုဂ်၊ ဂန္တုကာမော = ဂန္တုံ ကာမော၊ သွားလိုသော။

(စ) စောရဘယံ = စောရသ္မာ ဘယံ၊ သူခိုးဘေးမှ ဘေးဥပဒ်။ (အပါဒါနကာရက။)

(ဆ) ဝနစရော= ဝနေ စရော၊ တောသား။ (ဩကာသကာရက။)

မှတ်ချက်။ ။တခါတရံ ရှေ့ပုဒ်ကို နောက်သို့ ရွှေ့ထားနိုင်သည်။ ပြယုဂ်၊ရာဇဟံသော=ဟံသာနံ ရာဇာ၊ ဟင်္သာငှက်တို့၏ဘုရင်။

တခါတရံ ရှေ့ပုဒ်၏ ကာရကဝိဘတ်ကို မခြေပ်ဘဲ ဘော်ပြနိုင်၏။ ဤသို့သော သမာသ်ကို အလုတ္တ တပ္ပုရိသ ဟု ခေါ်သည်။ ဥဒါဟရဏ်၊ ပရဿပဒံ = ပရဿ ပဒံ၊ သူတပါး၏ အနက်ကို ပြတတ်သောပုဒ်။

မနသိကာရော= မနသိ ကာရော, စိတ်၌ ပြုလုပ်ခြင်း။

တပ္ပုရိသ သမာသ်မှာ ရှေ့ပုဒ်နှင့် နောက်ပုဒ် အနက်မတူကြ။ သို့ရာတွင် နောက်ပုဒ် အနက်ကိုသာ ပဓာန ပြုရာသည်။

(၃) ကမ္မဓာရယ သမာသ်၌ကား၊ရှေ့ပုဒ်သည် နာမဝိသေသနသော်၎င်း၊နာမဝိသေသနကဲ့သို့ သုံးသော ပုဒ်သော်၎င်း ဖြစ်၍နောက်ပုဒ်ကိုအထူးပြုသည်။ ရှေ့ပုဒ် နောက်ပုဒ်တို့လည်း ကာရကချင်းတူညီရမည်။ ပြယုဂ်၊ မဟာပုရိသော, လူကြီးလူကောင်း။

မှတ်ချက်။ ။တခါတရံ အထူးပြုသော ပုဒ်ကို နောက်၌လည်း ထားနိုင်သည်။ ပြယုဂ်၊ ပုရိသုတ္တမော=ဥတ္တမော ပုရိသော, မြတ်သောလူ။

တားမြစ်ခြင်းအနက်ရှိသော အ၊အန်–ရှေ့ဆက်စကားပါသောပုဒ်တို့ကိုလည်း ကမ္မဓာရယဟူ၍ ခေါ်အပ်၏။ ပြယုဂ်၊ အနရိယော = အန် + အရိယ, ယုတ်နိမ့်သော။

ကမ္မဓာရယ သမာသ်မှာ ရှေ့ပုဒ်နောက်ပုဒ်အနက်တူသည်ဟု မှတ်ရာ၏။

(၄) ရှေ့ကဂဏန်းသင်္ချာတခုနှင့် နာမ်ပုဒ် ဆက်စပ်လျက်ရှိသော သမာသ်ကို ဒိဂုသမာသ်ဟု ခေါ်သည်။ ဒွန္ဒသမာသ်ကဲ့သို့ ၎င်းကိုလည်းတစုတပေါင်းတည်းအားဖြင့် သမာဟာရဟူ၍၎င်း။ တခုစီ ကွဲပြားသော အားဖြင့် အသမာဟာရ ဟူ၍၎င်း။ နှစ်မျိုးရှိသည်။ ပြယုဂ်၊ တိရတနံ, ရတနာသုံးပါး။ စတုဒိသာ, အရပ်လေးပါးတို့။

(၅) ရှေ့ပုဒ်သည် အဗျယပုဒ်ဖြစ်၍ ၎င်းပုဒ်အနက်ပြဋ္ဌာန်းလျှင်၊အဗျယီဘာဝသမာသ်ဖြစ်၏။ ပြယုဂ်၊ယထာသုခံ, ချမ်းသာသည် အလျောက်။

(၆) နာမဝိသေသနဖြစ်သော ရှေ့ပုဒ်နှင့်သော်၎င်း။ နာမဝိသေသနကဲ့သို့ သုံးသော ရှေ့ပုဒ်နှင့်သော်၎င်း နောက်ပုဒ်ကို တွဲစပ်ရာ။ ထိုရှေ့နောက် နှစ်ပုဒ်လုံး၏ အနက် မပြဋ္ဌာန်းဘဲ။ အခြား အနက်ဝင်၍ ပြဋ္ဌာန်းသော သမာသ်သည် ဗဟုဗ္ဗီဟိ သမာသ်မည်၏။ ပြယုဂ်၊ ဗဟုဓနော, ဥစ္စာများသောလူ။

ဗဟုဓနံ အာနယ, ဥစ္စာ များသော လူကို ခေါ်ခဲ့–ဟုဆိုလျှင်။ ဗဟု–ဟူသော ရှေ့ပုဒ်။ ဓန, ဟူသော နောက်ပုဒ်–နှစ်ပုဒ်လုံး၏ အနက်ဖြစ်သည့် များသောဥစ္စာတို့ကို မဆောင်ယူရဘဲ။ ထိုဥစ္စာရှင် လူကိုသာခေါ်ဆောင်ရသောကြောင့်။ လူ–ဟူသော အခြားအနက်ဝင်၍ပြဋ္ဌာန်းသည်ကို သိအပ်၏။ဗဟုဗ္ဗီဟိ သမာသ်ဟူသမျှ ဤနည်းအတိုင်းပင် ဖြစ်၏။

ပုဒ်များစွာ ပါဝင်သော ဗဟုဗ္ဗီဟိသမာသ်ကို ဘော်ပြရာ၌ အဆုံးပုဒ်ကစ၍ ဖြေဆိုလျှင် သင့်လျော်၏။ ဥဒါဟရဏ်၊

နဂရံ ဝိဝိဓသမဏဗြာဟ္မဏသဘာဇနသဃ်ဋ္ဋိကံ။

=နဂရံ ဝိဝိဓသမဏဗြာဟ္မဏသဘာဇနေဟိ– သဃ်ဋ္ဋိတံ။ (ကရဏကာရက တပ္ပုရိသ။)

=နဂရံ ဝိဝိဓသမဏဗြာဟ္မဏာနံ–သဘာဇနေဟိ သဃ်ဋ္ဋိတံ။ (သာမိကာရက တပ္ပုရိသ။)

=နဂရံ ဝိဝိဓသမဏာနဉ္စ–ဗြာဟ္မဏာနံ သဘာဇနေဟိ သဃ်ဋ္ဋိတံ။ (ဒွန္ဒ။)

=နဂရံ ဝိဝိဓာနံ – သမဏာနဉ္စ ဝိဝိဓာနံ ဗြာဟ္မဏာနံ သဘာဇနေဟိ သဃ်ဋ္ဋိတံ။(ကမ္မဓာရယ။)

အနက်ကား။ အမျိုးမျိုးသော သမဏဗြာဟ္မဏတို့၏ လောကဝတ်ပြုခြင်းများဖြင့် စေ့စပ်အပ်သော မြို့။ ဟူ၏။

ကတ္တု အတိတ် ကိတ်။

အထက်ကဘော်ပြအပ်သော ဘာဝအတိတ်ကိတ်သို့ ဝါ-ပစ္စည်းဆက်လျှင် ကတ္တုအတိတ်ကိတ်ကိုရ၏။

ပြယုဂ်။ ဘာဝ အတိတ် ကိတ်-ပစိတ။ ကတ္တု အတိတ် ကိတ်-ပစိတဝါ။

၎င်းတို့ကို ဝါ-ပစ္စည်းနှင့်ဆုံးသောပုဒ်များကဲ့သို့ ပစ္စုပ္ပန်ကိတ်နာမ်များကို ဝိဘတ်သွယ်သည်အတိုင်း ဝိဘတ် သွယ်ရသည်။

မှတ်ချက်။ ။မဟာ, ကြီးသော-ဟူသော နာမ ဝိသေသနကိုလည်း ပစ္စုပ္ပန်ကိတ်နာမ်ကဲ့သို့ ဝိဘတ် သွယ်ရသည်။

ဝါ-၏ ရှေ့ကသရကို ရှည်စေလျှင် ဝါ သည် ဝီ ဖြစ်နိုင်၏။ ပစိတဝါ=ပစိတာဝီ။

၎င်းကို ဳ ဆုံးနာမ်များကဲ့သို့ ဝိဘတ်သွယ်ရသည်။ ပုလ္လိင်၌ သက္ခီ(စာမျက်နှာ ၁၆)။ ဣတ္ထိလိင်၌ နဒီ(စာမျက်နှာ ၂၁) ကဲ့သို့တည်း။

ဘာသာပြန်။ ။(၁)စန္ဒသူရိယာ သောဘန္တိ။ (၂) ဗုဒ္ဓ သာသနံ သေဝတိ။ (၃) သော ယထာသုခံ ဝသတိ။ (၄) အာစရိယော မံ စတုသစ္စံ သိက္ခာပေတိ။ (၅) တေ ပါရင်္ဂံ နသိံသု။ (√ နသ်, ပျက်စီးခြင်း)။ (၆) ပစိတဘတ္တံ ဒေထ။ (၇) ပိတုပေသိတဒုတဝစနံ သုဏာထ။ (၈) လုဒ္ဒပဟရိတ မိဂေါ မရိ။ (၉) ကီဠန္တဒါရကာ နိဒ္ဒါယန္တိ။ (၁၀) ဟတ္ထ ဆိန္နော ပုရိသော နိရုပကာရော။

အောက်ပါဝါကျတို့ကို ပါဠိဘာသာအားဖြင့် သမာသ်ပုဒ်စပ်ပါ။

(၁) မိန်းကလေး၏ အဘ။ (၂) လူကလေး၏ အမိ။ (၃) ချမ်းသာခြင်းနှင့် ဆင်းရဲခြင်း။ (၄) ငှက်နှင့်မျောက်။ (၅) ထမင်းစားနေသော လူကလေး။ (၆) သစ်ပင်ပေါ်မှာ ထိုင်ပြီးသောလူ။ (၇) သေဘေးမှ ကြောက်ခြင်း။ (၈) သူခိုး တို့ကို ဘမ်းမိသော လူများ။ (၉) အမိ၏ အဆုံးအမ။ (၁၀) ခြေနှင့် လက်။

## အခဏ်း ၂၆။

## နာမကြိယာ။

ဤကား နာမ်တည်ပုဒ်သို့ ပစ္စည်းဆက်၍ ရသော ကြိယာ ဖြစ်သည်။ဎင်းကိုနာမ်ကဘော်ပြသော အရာကဲ့သို့ပြုကျင့်ခြင်း။ ထိုအရာကိုအလိုရှိခြင်း။ ထိုအရာကို အသုံးပြုခြင်း။ ထိုအရာသို့ ပြောင်းလဲခြင်းများဟူသောအနက်တို့၌သုံးသည်။ဤကြိယာ၏ ပစ္စည်းများကား အယ၊အာယ၊ ဤယ၊ တို့တည်း။

| **နာမ်တည်ပုဒ်** | **နာမ်ကြိယာ** |
|---|---|
| ပဗ္ဗတ, တောင်။ | ပဗ္ဗတာယတိ,တောင်ကဲ့သို့ပြုကျင့်၏။ |
| ဂဏ, ဂိုဏ်း။ | ဂဏီယတိ, ဂိုဏ်းကိုအလိုရှိ၏။ |
| ဒဠှ,မြဲမြံသည်။ | ဒဠှယတိ, မြဲမြံစွာပြု၏။ |

## တုမိစ္ဆတ္ထကြိယာ။

ဤကား ဓာတ်ကို အဗ္ဘာသအတိုင်း ဒွေးဘော် ပြုပြီးလျှင် နောက်ဆက် ပစ္စည်း ခ,ဆ,သ, တို့ကို ကပ်၍ ရသော ကြိယာ ဖြစ်သည်။ ဎင်းသည် အလိုရှိ၏–ဟူသော အနက်ကို ထွက် စေ၏။

| ဓာတ်။ | တုမိစ္ဆတ္ထတည်ပုဒ်။ | တုမိစ္ဆတ္ထကြိယာ။ |
|---|---|---|
| √ဘုဇ်,စားခြင်း။ | ဗုဘုက္ခ(ဇ+ခ=က္ခ) | ဗုဘုက္ခတိ,စားချင်သည်။ မွတ်သိပ်သည်။ |
| √ဃသ်,စားခြင်း။ | ဇိဃစ္ဆ(သ+ဆ=စ္ဆ) | ဇိဃစ္ဆတိ, စားချင်သည်။ မွတ်သိပ်သည်။ |
| √သု,ကြားခြင်း။ | သုဿုသ | သုဿုသတိ,ကြားခြင်းငှာအလိုရှိ၏။ နားထောင်ချင်၏။ |

## အဓိပ္ပါယ်လေးနက်စေသောကြိယာ။

အချို့အရာ၌ တည်ပုဒ်ကို အဗ္ဘာသ ပြုလုပ်ခြင်း အားဖြင့် လေးနက်သော အဓိပ္ပါယ်ကိုရ၏။ ပြယုဂ်၊

√ ကမ်, သွားခြင်း – စင်္ကမတိ, စင်္ကြံသွားသည်။

√ စလ်, လှုပ်ခြင်း–စဉ္စလတိ, တုန်လှုပ်သည်၊ အကြိမ်ကြိမ်လှုပ်သည်။

### အထွေထွေ ကြိယာများ။

၁။ √ ကရ်, ပြုလုပ်ခြင်း။

အဇ္ဇတနီ။

| | | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|---|
| အမှ | – | အကာသိံ။ | အကာသိမှာ။ |
| တုမှ | – | အကာသိ။ | အကာသိတ္ထ။ |
| နာမ | – | အကာသိ။ | အကာသုံ၊ အကံသု။ |

ဤရုပ်တို့သည် ရိုးရိုးရုပ်တည်းဟူသော ကရိ၊ ကရိ အစရှိသည်တို့ထက် အသုံးများ၏။

၂။ √ ဒါ, ပေးခြင်း။

အဇ္ဇတနီ။

| | | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|---|
| အမှ | – | အဒါသိံ။ | အဒါသိမှာ။ |
| တုမှ | – | အဒါသိ။ | အဒါသိတ္ထ။ |
| နာမ | – | အဒါသိ။ | အဒါသုံ၊ အဒံသု။ |

### အနာဂတ်။

| | | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|---|
| အမှ | – | ဒဿာမိ။ | ဒဿာမ။ |
| တုမှ | – | ဒဿသိ။ | ဒဿထ။ |
| နာမ | – | ဒဿတိ။ | ဒဿန္တိ။ |

အဗ္ဘာသ ပြုလုပ်သည် ရှိသော် ဒဒိဿာမိ အစရှိသည်တို့ ဖြစ်ကြ၏။

## ၃။ √ ဌာ, ရပ်ခြင်း။

### အဇ္ဇတနီ။

| | | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|---|
| အမှ | – | အဋ္ဌာသိံ။ | အဋ္ဌာသိမှာ။ |
| တုမှ | – | အဋ္ဌာသိ။ | အဋ္ဌာသိတ္ထ။ |
| နာမ | – | အဋ္ဌာသိ။ | အဋ္ဌံသု။ |

### အနာဂတ်

| | | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|---|
| အမှ | – | ဌဿာမိ။ | ဌဿာမ။ |
| တုမှ | – | ဌဿသိ။ | ဌဿထ။ |
| နာမ | – | ဌဿတိ။ | ဌဿန္တိ။ |

တိဋ္ဌိဿာမိ အစရှိသည်ဖြင့်လည်း ရပ်ပြီးနိုင်၏။

## ၄။ √ ဉာ, သိခြင်း။

### တည်ပုဒ်–ဇာန။

### အဇ္ဇတနီ။

| | | ဧကဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|---|
| အမှ | – | ဇာနိံ။ | ဇာနိမှာ။ |
| တုမှ | – | ဇာနိ။ | ဇာနိတ္ထ။ |
| နာမ | – | ဇာနိ။ | ဇာနိံသု။ |

သို့မဟုတ်

| | | ကေဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|---|
| အမှ | – | အညာသိံ။ | အညာသိမှာ။ |
| တုမှ | – | အညာသိ။ | အညာသိတ္ထ။ |
| နာမ | – | အညာသိ။ | အညာသိံသု။ |

၅။ √ ဗြူ, ပြောခြင်း။

အဇ္ဇတနီ။

| | | ကေဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|---|
| အမှ | – | အဗြဝိံ။ | အဗြဝိမှာ။ |
| တုမှ | – | အဗြဝိ။ | အဗြဝိတ္ထ။ |
| နာမ | – | အဗြဝိ။ | အဗြဝုံ၊ အဗြဝိံသု။ |

၆။ √ ဝစ်, ပြောဆိုခြင်း။

အဇ္ဇတနီ။

| | | ကေဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|---|
| အမှ | – | အဝေါစိံ။ | အဝေါစုမှာ။ |
| တုမှ | – | အဝေါစော။ | အဝေါစုတ္ထ။ |
| နာမ | – | အဝေါစိ။ | အဝေါစုံ။ |

ပဉ္စမ ပုဗ္ဗကြိယာ–ဝတွာ။

၇။ √ ဒိသ်, မြင်ခြင်း။

ဟိယျတ္တနီ။

| | | ကေဝုစ်။ | ဗဟုဝုစ်။ |
|---|---|---|---|
| အမှ | – | အဒ္ဒသံ။ | အဒ္ဒသမှာ။ |
| တုမှ | – | အဒ္ဒသ။ | အဒ္ဒသတ္ထ။ |
| နာမ | – | အဒ္ဒသ။ | အဒ္ဒသူ။ |

ပဉ္စမ ပုဗ္ဗကြိယာ–ဒိသွာ။

